လျှပ်စစ်ဓါတ်အားကို လက်မခံသော ရိုးရိုးလိုက်သတ္တုများအား အမြုပ်ပေါ်သန့်စင်ခြင်းနှင့် လျှပ်ဖကာဖြင့် သန့်စင်ခြင်းများ ဆောင်ရွက်ရန်လိုအပ်ပါသည်။

လျှပ်စစ်ဓါတ်အားဖြတ်သန်းမှုကို လက်ခံသော ခဲမဖြူသတ္တုများသည်လည်း ရိုးလိုက်အနည်းငယ်ပါဝင်နေပါသဖြင့် အမြုပ်ပေါ်သန့်စင်ခြင်းနှင့် လျှပ်ဖကာဖြင့် သန့်စင်ရန်လိုအပ်ပါသည်။

ဤသို့ အဆင့်ဆင့်ဆောင်ရွက်မှသာ သတ္တုသားပါဝင်မှုနှုန်း ကောင်းမွန်သော ခဲမဖြူသန့်စင်သတ္တုများကို ခွဲခြား ထုတ်လုပ်နိုင်ပါမည်။

ထုတ်လုပ်မှု

၁၃။ စက်ရုံကနဦးစက်များ တပ်ဆင်ရာတွင် အမှတ် (၂)သတ္တုတွင်းလုပ်ငန်းအောက်ရှိ သတ္တုတွင်းများ၊ စက်ရုံများမှ အသုံးမလိုသည့် စက်ပစ္စည်းများကို ပြင်ဆင်၍ တပ်ဆင်အသုံးပြုထားခြင်းကြောင့် စက်များ၏ ထုတ်လုပ်နိုင်မှုစွမ်းရည်သည် စတင်စဉ်က နိမ့်ကျနေသောကြောင့် တစ်နှစ်လျှင် တန် (၃၀၀)ခန့်သာ ခွဲခြားထုတ်လုပ်နိုင်သည်ကို မှတ်တမ်းများအရ သိရှိရသဖြင့် ယခုစက်ရုံ စမ်းသပ်လည်ပတ်စေခြင်းဖြင့် လိုအပ်သော နည်းပညာများ အကူအညီများ ရယူပြီး စက်၏စွမ်းရည်မြှင့်တင်ဆောင်ရွက်သွားသဖြင့် တစ်နှစ်လျှင် တန် (၆၀၀)ခန့် စမ်းသပ်ထုတ်လုပ် လည်ပတ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၁၄။ ခဲမဖြူ အပြိုက်နက်ခွဲခြားစက်ရုံကို သတ္တုတွင်းဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ အမိန့် ညွှန်ကြားချက်များအတိုင်း လိုက်နာထုတ်လုပ်လည်ပတ်သွားမည်ဖြစ်ကြောင်းနှင့် စက်ရုံအလုပ်ရုံ စက်ယန္တရားလည်ပတ်သုံးစွဲမှုနှင့် အလုပ်သမားဝန်ထမ်းများအတွက် လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး ဥပဒေပါရပိုင်ခွင့်များနှင့် သက်သာချောင်ချိရေးတို့အတွက် အလုပ်သမားအလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၏ ဥပဒေနည်းဥပဒေများနှင့်အတူ ဝန်ကြီးဌာနအောက် ဦးစီးဌာနတို့၏ ရည်ရွယ်ချက်၊ ဆောင်ရွက်ချက်နှင့် ညွှန်ကြားချက်များကိုလည်း လိုက်နာဆောင်ရွက်သွားပါမည်။

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

၁၅။ (က) **ရည်မှန်းချက်**

(၁) လုပ်ငန်းခွင်အေးချမ်းသာယာရေး

(၂) အလုပ်အကိုင်နေရာချထားပေးရေး

(၃) လုပ်ငန်းကျွမ်းကျင်မှုလေ့ကျင့်ပေးရေး

(၄) အလုပ်သမားဥပဒေပါ အကျိုးခံစားခွင့်များအတွက် သင်ကြားဆောင်ရွက်ပေးရေး

(၅) လူ့အင်အားနှင့် အရင်းအနှီးများကို အထိရောက်ဆုံးနှင့် အကျိုးရှိစွာ အသုံးချနိုင်ရေး

(၆) အလုပ်သမားရေးရာနှင့် သုတေသနနှင့် စာရင်းဇယားများစုဆောင်းပြုစုပေးခြင်း

(၇) နိုင်ငံစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုလုပ်ငန်းများအတွက် လိုအပ်သည့်အလုပ်သမားများကို အချိန်မီရရှိအောင် ဆောင်ရွက်ပေးရန် အလုပ်လုပ်ကိုင်သော အလုပ်သမားများကို မှတ်ပုံတင်ပေးခြင်း

(ခ) တာဝန်ဝတ္တရား

(၁) အလုပ်ရှင် အလုပ်သမား အညှိနှိုင်းမှုဖြေရှင်းပေးခြင်း

(၂)

(၃) အနည်းဆုံးအခကြေးငွေသတ်မှတ်ခြင်း

(၄) အလုပ်ခွင်စည်းကမ်းစိစစ်ခြင်း (အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက် ကချုပ်ချုပ်ဆိုခြင်း)

(၅) ပြည်တွင်းအလုပ်ကိုင် ရှာဖွေသူများအား မှတ်ပုံတင်ခြင်းနှင့် အလုပ်အကိုင်ရရှိအောင် စီစဉ်ပေးခြင်း

(၆) ပြည်ပအလုပ်ကိုင်ရှာဖွေရေးလုပ်ငန်း ဆောင်ရွက်ခြင်း

(၇) လုပ်ငန်းနှင့် ကျွမ်းကျင်မှုလေ့ကျင့်သင်ကြားပေးခြင်း

(၈) အလုပ်သမားဥပဒေများ ညှိနှိုင်းစိစစ်ခြင်း

(၉) အပြည်ပြည်ဆိုင်ရာ အလုပ်သမားကိစ္စရပ်များ ဆောင်ရွက်ခြင်း

(၁၀) အလုပ်သမားရေးရာ သုတေသနလုပ်ငန်းများပြုလုပ်ခြင်း

(၁၁) အလုပ်သမားရေးရာစာရင်းအင်းများရယူခြင်း

(ဂ) **သက်ဆိုင်ရာအဖွဲ့အစည်းအလိုက် အလုပ်သမားအဖွဲ့အစည်းများ ဖွဲ့စည်းပေးခြင်း**

(ဃ) **အလုပ်ခန့်ထားမှုဆိုင်ရာ ဟည်ဆဲဥပဒေများ**

(က) ၁၉၅၀ ခုနှစ်၊ အလုပ်အကိုင်နှင့် လေ့ကျင့်သင်ကြားရေးဥပဒေ အကျိုးသက်ရောက်မှုများ ဥပဒေအကြောင်းသက်ရောက်မှုမှာ -

(၁) အလုပ်သမားရုံးများတည်ထောင်ဖွင့်လှစ်ခွင့်ရရှိခြင်း

(၂) လေ့ကျင့်ရေးသင်တန်းကျောင်းများ တည်ထောင်ဖွင့်လှစ်ခွင့်ရရှိခြင်း

(ခ) ၁၉၅၉ ခုနှစ် အလုပ်ခန့်ထားမှု ကန့်သတ်ရေးဥပဒေ ဥပဒေအကျိုးသက်ရောက်မှုမှာ -

(၁) ဥပဒေအာဏာတည်သည့်နေ့သနှင့် လုပ်ငန်းအမျိုးအစား သတ်မှတ်ခြင်း၊

(၂) အကြုံးဝင်သည့်အလုပ်ရှင်က လစ်လပ်ပေါ်ပေါက်သောနေရာအတွက် အလုပ်သမားရုံးသို့ တောင်းခံရန်သတ်မှတ်ခြင်း။

(၃) အလုပ်ရှင်၏ အမှုထမ်းရေး အလုပ်သမားရုံက သင့်လျော်သောအလုပ်သမားများကို ရှာဖွေပေးခြင်း။

(၄) ပုဆောင်းပေးပို့လူများအနက် အလုပ်ရှင်က ရွေးချယ်လူများအား အလုပ်အပ်ရန် ပေးပို့ခြင်း၊ အလုပ်ခန့်ထားရေးကဒ်ပြား ပုံစံ (ဂ)ထုတ်ပေးခြင်း

(၅) ဥပဒေဖောက်ဖျက်မှုအတွက် ပြစ်ဒဏ်ချရန်ဆောင်ရွက်ခွင့် ပြဋ္ဌာန်းထားခြင်း

(င) ၁၉၆၀ ခုနှစ် အလုပ်ခန့်ထားမှုကန့်သတ်ရေးနည်းဥပဒေ

(စ) ၂၀၁၂ အလုပ်သမားရေးရာ အငြင်းပွားမှုဖြေရှင်းရေး ဥပဒေ/နည်းဥပဒေ

(ဆ) ၂၀၁၁ အလုပ်သမားအဖွဲ့အစည်း ဥပဒေ/နည်းဥပဒေ

## အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန

ရည်ရွယ်ချက်

၁၆။ အလုပ်သမားများ ဥပဒေပါရပိုင်ခွင့်များကို မှန်မှန်နှင့် ပြည့်ပြည့်ဝဝရရှိစေခြင်းဖြင့် ထုတ်လုပ်မှုစွမ်းအား မြင့်မားလာစေရန်။

### ၁၇။ အဓိကလုပ်ငန်းတာဝန်များ

- အလုပ်သမားများ ဥပဒေပါအကျိုးခံစားခွင့်များရရှိစေရန် စည်းကြပ်အကောင်အထည်ဖော်ခြင်း။
- လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးဆိုင်ရာ ကိစ္စရပ်များကို ဆောင်ရွက်ပေးခြင်း။

### ၁၈။ လုပ်ငန်းဆောင်ရွက်ချက်များ

- စက်ရုံ၊ အလုပ်ရုံ၊ အလုပ်ဌာန၊ ဆန်စက်၊ ဆေးလိပ်ခုံနှင့် ဆိုင်ကို စစ်ဆေးစည်းကြပ်ခြင်း။
- ဥပဒေပါငွေကြေး ခံစားခွင့်များရရှိစေရန် ဆောင်ရွက်ပေးခြင်း။
- အချိန်ပိုလုပ်ကိုင်ခွင့်တောင်းခံခြင်းများအား စိစစ်ခွင့်ပြုပေးခြင်း။
- လုပ်ငန်းခွင်ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ကျန်းမာရေးဆိုင်ရာ အကြံဉာဏ်ပေးခြင်းနှင့် လေ့ကျင့်ပညာပေးခြင်း။
- စက်ရုံ၊ အလုပ်ရုံများ၌ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးကော်မတီများ ဖွဲ့စည်း၍ ပူးပေါင်းဆောင်ရွက်ခြင်း။

### ၁၉။ လုပ်ငန်းပိုင်ရှင်များ သိရှိလိုက်နာရန်

- လုပ်ငန်းစတင်ဖွင့်လှစ်လုပ်ကိုင်ခြင်း မပြုမီ (၁၅)ရက်ကြိုတင်၍ နို့တစ်စာပေးပို့ရမည်။

မန်နေဂျာပြောင်းလဲခန့်အပ်ကိုင်း၊ လုပ်ငန်းပိုင်ရှင်မှ (၇)ရက်အတွင်း နို့တစ်စာပေးပို့ရမည်။

မန်နေဂျာခန့်ထားခြင်း မရှိလျှင် လုပ်ငန်းပိုင်ရှင်ကို အလုပ်ရုံမန်နေဂျာအဖြစ် မှတ်ယူမည်။

- အလုပ်လုပ်ကိုင်ရန် ကာလအပိုင်းအခြားဆိုင်ရာ နို့တစ်စာကို စက်ရုံအတွင်း အလုပ်သမားများ မြင်သာသောနေရာတွင် ကပ်ထား၍ အလုပ်ချိန်ပြောင်းလဲလုပ်ကိုင်လိုပါက ဤဦးစီးဌာနသို့ ကြိုတင်ခွင့်ပြုချက်တောင်းခံရမည်။

  အချိန်ပိုလုပ်ကိုင်လိုလျှင် ကြိုတင်ခွင့်ပြုချက်ရယူရမည်။
- ဝန်ကြီးဌာနသတ်မှတ်ထားသော စည်းကမ်းအတိုင်း အချိန်ပိုခိုင်းစေနိုင်သည်။
- လုပ်ငန်းခွင်တွင် မတော်တဆ ထိခိုက်မှုကြောင့်သေဆုံးလျှင် ကိုယ်အင်္ဂါထိခိုက်နာကျင်ပြီး (၄၈)နာရီ ထက်ပို၍ မလုပ်နိုင်လျှင် မန်နေဂျာသည် မတော်တဆထိခိုက်မှု နို့တစ်စာပေးပို့ရမည်။
- လုပ်ငန်းခွင် ရောဂါပွဲတက်နေပါက မန်နေဂျာမှ ခရိုင်တာဝန်ခံနှင့် ဆရာဝန်ထံ နို့တစ်စာပေးပို့ရမည်။
- အလုပ်ရုံကို ခေတ္တ(သို့)အမြဲပိတ်ထားလိုလျှင် (၁)လရုတ်တရက်ပိတ်ပါက (၄၈)နာရီအတွင်း အကြောင်းကြားရမည်။
- အလုပ်ရုံကို ပိတ်ထားရာမှ ပြန်လည်ဖွင့်လှစ်လိုလျှင် မဖွင့်လှစ်မီ (၁၅)ရက်အတွင်း အကြောင်းကြားစာပေးပို့ရမည်။

## ၂၀။ ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာအချက်များ

- အပူအအေးမျှတရေး၊ လေဝင်လေထွက် ကောင်းမွန်ရေးစီမံထားရမည်။
- လုံလောက်သည့်အလင်းရောင် ရရှိရေး စီမံထားရမည်။
- အန္တရာယ်ရှိသည့် အခိုးအငွေ့၊ အမှုန်အမွှားများစုဝေးမှု မရှိအောင် စီမံထားရမည်။
- ထမင်းစားခန်း၊ သောက်ရေနှင့် အိမ်သာများ၊ ကျန်းမာရေးစောင့်ရှောက်ရေးနေရာများကို လုံလောက်စွာ ထားရှိ၍ သန့်ရှင်းစင်ကြယ်စွာ စီမံထားရမည်။
- အန္တရာယ်ရှိ၍ လည်ပတ်လှုပ်ရှားနေသည့် စက်ကိရိယာများ လုံခြုံခိုင်ခံ့စွာ ကာရံထားရမည်။
- အလုပ်ခန်းတိုင်းတွင် အရေးကြီးကိစ္စများရှိလျှင် အားဖြတ်တောက်ရန် သင့်လျော်သော ကိရိယာများ စီမံထားရမည်။
- ပင့်စက်၊ မြှောက်စက်၊ ကရိန်းစက်များ ပုံမှန်စစ်ဆေး၍ မှတ်တမ်းထားရှိရမည်။
- လိုအပ်ပါက ကိုယ်ခန္ဓာကာကွယ်ရေးဝတ်စုံ P.P.E များထုတ်ပေးဝတ်ဆင်လုပ်ကိုင်စေရမည်။

  မီးလောင်လျှင် ထွက်နိုင်သည့်အရေးပေါ် ထွက်ပေါက်၊ သွားလမ်းနှင့် အန္တရာယ်အချက်ပေး ကိရိယာများထားရှိရမည်။
- အလွန်အမင်း လေးလံသည့်ဝန်ချိန်ကို အမျိုးသမီး၊ လူငယ်နှင့် ကလေးလုပ်သားများ သယ်မခြင်း ရွှေ့ပြောင်းခြင်း မပြုစေရ။

၂၁။ အလုပ်သမားဥပဒေဆိုင်ရာအချက်များ

(၁၃)နှစ်မပြည့်သည့် ကလေးများ လုပ်ကိုင်စေခြင်းမပြုရ။ (၁၃)နှစ်ပြည့်ပြီးကလေးများကို အလုပ်လုပ်ရန် သင့်လျော်ကြောင်း တာဝန်ခံလက်မှတ်ကို မန်နေဂျာသိမ်းမထားလျှင်၊ ကာယကံရှင်မှ ဆောင်မထားလျှင် လုပ်ခွင့်မပြုရ။

- (၁၅)နှစ်အထက် (၁၈)နှစ်အတွင်း လူရွယ်များအား အလုပ်လုပ်ရန် သင့်လျော်ကြောင်း တာဝန်ခံလက်မှတ်ရယူ၍ စေခိုင်းနိုင်သည်။
- လူကြီးအလုပ်ချိန် တစ်နေ့ (၈)နာရီ၊ တစ်ပတ် (၄၄)နာရီထက်မပိုရ၊
- တစ်ရက်ပတ်လုံး အဆက်မပြတ်လုပ်ရသော လုပ်ငန်းများတွင် တစ်ပတ် (၄၈)နာရီလုပ်နိုင်သည်။
- အနည်းဆုံး မိနစ် (၃၀)အနားမပေးဘဲ တစ်ဆက်တည်း (၅)နာရီထက်ပို၍ စေခိုင်းခြင်းမပြုရ။
- တနင်္ဂနွေနေ့ကို ရက်သတ္တပတ် အပတ်စဉ် ပိတ်ပေးရန်နှင့် အလုပ်လုပ်ရန် လိုအပ်ပါက ထိုနေ့မတိုင်မီ (၃)ရက်နှင့် ကျရောက်ပြီး (၃)ရက်အတွက် တစ်ရက်ရက်တွင် အစားထိုးပိတ်ပေးရမည်။
- အချိန်ပိုစေခိုင်းပါက သတ်မှတ်ပုံသေနည်းအရ တွက်ချက်၍ လုပ်ခပေးချေရမည်။
- တစ်နှစ်လျှင် ရှောင်တခင်ခွင့် (၆)ရက်ကို လစာအပြည့်ဖြင့် ခံစားခွင့်ရှိသည်။
- လုပ်သက် (၁)နှစ်ပြည့်ပြီးသူများ နောင်လာမည့် (၁)နှစ်အတွင်း လုပ်သက်ခွင့် (၁၀)ရက်ကို ပျမ်းမျှလစာငွေ၊ ပျမ်းမျှ အခကြေးငွေဖြင့် ခံစားခွင့်ပြုရမည်။
- ဆေးလက်မှတ်ခွင့် (၃၀)ရက်ကို လုပ်သက် (၆)လကျော်က လုပ်ခမပျက် ခံစားခွင့်ရှိပြီး (၆)လမပြည့်က လစာမဲ့ဆေးခွင့်ခံစားနိုင်သည်။
- မည်သည့်ကလေးကိုမျှ (၁)ရက်လျှင် (၄)နာရီထက်ပိုမခိုင်းရ၊ ည (၆)နာရီမှ နံနက် (၆)နာရီအတွင်း မခိုင်းရ၊ အလုပ်ရုံတစ်ခု၌ အလုပ်လုပ်ပြီးသော ရက်တွင် အခြားအလုပ်ရုံ၌ မခိုင်းရ။

**လူမှုဖူလုံရေးအဖွဲ့ ဆောင်ရွက်ချက်**

**၂၂။ မဟာမကျန်းမှု အကျိုးခံစားခွင့်**

လူမှုဖူလုံရေးဆေးခန်းများနှင့် အလုပ်သမားဆေးရုံကြီးများတွင် အခမဲ့ ဆေးကုသပေးသည့်အပြင် အလုပ်သမားနေ့စဉ်ဝင်ငွေ၏ ၅၀%ကို မဟာမကျန်းမှု အကျိုးခံစားခွင့်အဖြစ် အများဆုံး ရက်သတ္တ(၂၆)ပတ်အထိ ခံစားခွင့်ရှိသည်။

**၂၃။ မီးဖွားမှုအကျိုးခံစားခွင့်**

အလုပ်သမားဆေးရုံကြီးများတွင် -

- အခမဲ့မီးဖွားပေးသည့်အပြင် ဝင်ငွေ၏ ၆၆.၆၆%ကို ရက်သတ္တ(၁၂)ပတ်အထိ ခံစားခွင့်ရှိသည်။
- လစဉ်လစာ ၃၀၀၀၀ဝိ/-နှင့် အထက်ဝင်ငွေရရှိသူအဖြစ် အာမခံကြေးထည့်ဝင်ထားသော အလုပ်သမားတစ်ဦးမီးဖွားပါက တစ်နေ့လျှင် ၅၉၄ ကျပ်၊ ၈၅ပြား နှုန်းဖြင့် ခံစားခွင့်ရှိသည်။

## ၂၄။ အသုဘစရိတ်ခံစားခွင့်

မည်သည့်အကြောင်းကြောင့်မဆို အလုပ်သမားတစ်ဦးသေဆုံးပါက အသုဘစရိတ် ၄၀၀၀/- ခံစားခွင့်ရှိသည်။

## ၂၅။ ကျန်ရစ်သူ ပင်စင်ခံစားခွင့်

- လုပ်ငန်းခွင်ထိခိုက်ဒဏ်ရာရရှိမှုကြောင့် အလုပ်သမားတစ်ဦးသေဆုံးပါက ကျန်ရစ်သူဇနီးနှင့် သားသမီးများသည် ကျန်ရစ်သူပင်စင် ခံစားခွင့်ရှိသည်။
- လစာ ၃၀၀၀၀/- နှင့်အထက် ဝင်ငွေရရှိသူအဖြစ် အာမခံကြေး ထည့်ဝင်ထားသူ အလုပ်သမားတစ်ဦး သေဆုံးပါက ဇနီးသည် လစဉ် ၈၂၆၆ ကျပ်၊ ၇၀ ပြား ခံစားခွင့်ရှိပြီး သားသမီးတစ်ဦးလျှင် တစ်လ ၄၁၃၃ ကျပ်၊ ၃၀ပြားနှုန်းဖြင့် (၃)ဦးအထိ ခံစားခွင့်ရှိသည်။
- အရွယ်မရောက်သေးသော သားသမီး(၃)ဦးရှိသည့် မုဆိုးမတစ်ဦးသည် ကျန်ရစ်သူပင်စင်အဖြစ် ၂၀၆၆၆ ကျပ်၊ ၆၅ပြားကို လစဉ်ခံစားခွင့်ရှိသည်။
- ဇနီးသည် နောက်အိမ်ထောင်ပြုပါက သူမခံစားခွင့်ရှိသော လစဉ်ပင်စင်ငွေ ၈၂၆၆ကျပ်၊ ၇၀ပြား၏ (၂)နှစ်စာ ၁၉၈၄၀၀ ကျပ်၊ ၈၀ပြားကို မင်္ဂလာစရိတ်အဖြစ် တစ်လုံးတည်း ခံစားခွင့်ရှိသည်။

## ၂၆။ ယာယီမသန်စွမ်းမှု အကျိုးခံစားခွင့်

- လုပ်ငန်းခွင်ထိခိုက်မှုကြောင့် ယာယီမသန်စွမ်းမှုဖြစ်လျှင် အလုပ်သမားဝင်ငွေ၏ ၆၆.၆၆%ကို ငွေကြေးအကျိုးခံစားခွင့်အဖြစ် ထိခိုက်မှုစတင်ဖြစ်သည့်နေ့မှစ၍ (၅၂)ပတ်ထိ ခံစားခွင့်ရှိသည်။
- လစဉ်လစာ ၃၀၀၀၀/-နှင့် အထက်ဝင်ငွေရရှိသူအဖြစ် အာမခံကြေးထည့်ဝင်ထားသည့် အလုပ်သမားတစ်ဦးယာယီမသန်မစွမ်းဖြစ်ပါက လူမှုဖူလုံရေးဆေးခန်းများတွင် အခမဲ့ဆေးကုသခွင့်ရှိသည့်အပြင် တစ်နေ့လျှင် ၇၉၄ ကျပ်၊ ၈၄ပြားနှုန်းဖြင့် ခံစားခွင့်ရှိသည်။

## ၂၇။ အမြဲတမ်းမသန်စွမ်းမှုအကျိုးခံစားခွင့်

- လုပ်ငန်းခွင်ထိခိုက်မှုကြောင့် ကိုယ်အင်္ဂါအစိတ်အပိုင်းတစ်ခုခု ဆုံးရှုံးသွားပါက ၎င်း၏လုပ်အား ဆုံးရှုံးမှုအပေါ်မူတည်၍ ရာနိုင်နှုန်းသတ်မှတ်ပြီး အမြဲတမ်းမသန်စွမ်းမှုပင်စင်ကို ထိုအလုပ်သမား သေဆုံးသည်အထိ ခံစားခွင့်ရှိသည်။

## ၂၈။ ဆေးဖိုးပြန်အမ်းခြင်း

- အလုပ်သမားဆေးရုံကြီးများမှ အခြားဆေးရုံများသို့ လွှဲပြောင်းကုသကြရသူများနှင့် အရေးပေါ်အခြေအနေကြောင့် အလုပ်သမားဆေးရုံကြီးများနှင့် လက်လှမ်းမမီသဖြင့် နီးစပ်ရာပြည်သူ့ဆေးရုံများသို့ တက်ရောက်ကုသခဲ့ကြသူများသည် ဆေးဖိုးပြန်လည်တောင်းခံခြင်းကို ညွှန်ကြားချက် (၂၀/၂၀၀၉)နှင့်အညီ ပြန်လည်တောင်းခံခွင့်ရှိသည်။

၂၉။ အထူးကိစ္စရပ်များ

နှလုံးခွဲစိတ်ခြင်းကဲ့သို့ အထူးကုသရသည့် ကိစ္စရပ်များအတွက် ကျပ်သိန်း(၂၀)အထိ ဆေးဖိုးပြန်ရသည့် ခံစားခွင့်ကို စီစဉ်ခွင့်ပြုပေးလျက်ရှိသည်။

## ၃၀။ လုပ်ငန်းဌာနအရောက် ကွင်းဆင်းကုသပေးခြင်း

လုပ်ငန်းခွင်ရက် ပျက်မည်စိုး၍ ဆေးခန်းသို့လာရောက်ရန် အခက်အခဲရှိနေသူ အလုပ်သမားများအတွက် အလုပ်သမားဆေးရုံကြီးများမှ အထူးကုသဆရာဝန်များနှင့် အဖွဲ့များသည် စက်ရုံ အလုပ်ရုံ အလုပ်ဌာနများသို့ ကွင်းဆင်းပြီး ဆေးဝါးကုသပေးလျက်ရှိသည်။

## ၃၁။ အာမခံအလုပ်သမားများ၏ ခံစားခွင့်များ

မိမိ၏မကျန်းမာခြင်း၊ ထိခိုက်ဒဏ်ရာရခြင်း၊ နာတာရှည်ရောဂါဖြစ်ခြင်းတို့အတွက် ဆေးဝါးအခမဲ့ကုသခွင့်ရှိသော်လည်း အသုဘစရိတ်ကိုသာ ရရှိခံစားခွင့်ရှိမည်ဖြစ်ရာ ယင်းအလုပ်သမားများ၏ ထည့်ဝင်ကြေးများဖြင့် အခြားမမာမကျန်းဖြစ်သူများ၊ နှလုံးရောဂါသမားများ၊ ကျောက်ကပ်ရောဂါသမားများ၊ ကင်ဆာရောဂါသမားများ၊ အဆုပ်ရောဂါသမားများအတွက် စုပေါင်းပြီး ဝိုင်းဝန်းလှူဒါန်းခြင်းဖြစ်၍ ကုသိုလ်ရသော စီမံကိန်းတစ်ရပ်ပင်ဖြစ်ပါသည်။

## ၃၂။ ထည့်ဝင်ကြေးထည့်ဝင်ခြင်း

လစာ ၃၀၀၀၀ိ/-နှင့်အထက် ဝင်ငွေရရှိသူအဖြစ် အာမခံကြေးထည့်ဝင်ထားသူ အလုပ်သမားတစ်ဦးသည် လူမှုဖူလုံရေးအာမခံထည့်ဝင်ကြေးအတွက် အလုပ်သမား၏ လစာမှ ၄၅ိ/-နှင့် အလုပ်ရှင်က ၇၅ိ/-၊ စုစုပေါင်း ၁၂၀ိ/-ကို ထည့်ဝင်ကြေးအဖြစ် လစဉ်ပေးသွင်းရမည်ဖြစ်ပါသည်။

## ၃၃။ Myanmar Golden Bonanza Services Co.ltd.

ခဲမဖြူ အဖြိုက်နက် ခွဲခြားသန့်စင်ရေးစက်ရုံ၊ ဒနေဖြင့် ဝန်ကြီးဌာနများ၏ ဥပဒေ/နည်းဥပဒေနှင့် သက်ဆိုင်ရာ ဦးစီးဌာနများ၏ အမိန့်ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သည့်အပြင် ထုတ်လုပ်မှုမြင့်မားတိုးတက်ရေးနှင့် အလုပ်သမားဝန်ထမ်းများအတွက် သက်သာချောင်ချိရေး၊ လူမှုဘဝတိုးတက်မြင့်မားရေး၊ ကျန်းမာရေး၊ ပညာရေး စသည်တို့ အဘက်ဘက်မှ အဆင်ပြေချောမွေ့စေရေးနှင့် လုပ်ငန်းခွင်အတွင်း ဘေးအန္တရာယ်ကင်းရှင်းစေရေးနှင့် "ဘေးကင်းကျမှ လုပ်ခွင်သာ" "အင်အားပြည့်ဖြိုးကုန်ထုတ်တိုး" ကုန်သွယ်ဆောင်ပုဒ်နှင့်အညီ လုပ်သားတို့ လုပ်ငန်းခွင်အတွင်း ဘေးအန္တရာယ်ကင်းရှင်း စိတ်ပျော်ရွှင်စွာ လုပ်ကိုင်ဆောင်ရွက်နိုင်ရေးကို ရှေးရှု၍ အောက်ဖော်ပြပါအတိုင်း စီမံဆောင်ရွက်သွားပါသည်။

(၁) ဝန်ထမ်းသက်သာချောင်ချိရေး

(က) အိမ်ထောင်မရှိ လူပျို၊ အပျိုဝန်ထမ်းများအား သတ်မှတ်ထားသော အဆောင်တွင်နေထိုင်ခွင့်ပြုခြင်း။

(ခ) အိမ်ထောင်မိသားစုရှိသည့် ဝန်ထမ်းများ၊ ဝန်ထမ်းအိမ်ယာတွင် ရေ၊ မီး အပြည့်အစုံဖြင့် အခမဲ့နေထိုင်ခွင့်ပြုခြင်း။

(ဂ) စက်ရုံမိသားစုမှ ပညာသင်ကြားနေသော ကျောင်းသူ/ကျောင်းသားများအား နေ့စဉ်ကျောင်းကြိုပို့ယာဉ် စီစဉ်ပေးခြင်း။

(ဃ) ဝန်ထမ်းများအား အလုပ်အဆင်းအတက် ကြိုပို့ယာဉ် စီစဉ်ပေးခြင်း။

(င) စက်ရုံပတ်ဝန်းကျင်အနီးရှိ ရေနီကန်ကျေးရွာတွင် ကျန်းမာရေးဆေးခန်းဆောက်လုပ်ပြီး ဝန်ထမ်းများအား ဆေးဘိုးကျသင့်ငွေ- ၅၀% အား စက်ရုံမှပေးချေပေးခြင်း။

(စ) အပတ်စဉ် တနင်္ဂနွေနေ့တိုင်း ဝန်ထမ်းမိသားစုများအား ဈေးကားစီစဉ်ခြင်း။

(ဆ) ဝန်ထမ်းသာရေး/နာရေးအတွက် စက်ရုံမှ ငွေပဒေသာပင်စိုက်ကူပေးခြင်း။

(ဇ) ဝန်ထမ်းမိသားစုမှ ထူးချွန်ကျောင်းသူကျောင်းသားများအား ထောက်ပံ့ကြေး နှစ်စဉ်ချေးယ်ထောက်ပံ့ခြင်း။

၃၄။ **Myanmar Golden Bonanza Services Co.ltd.**

ခဲမဖြူ အပြီးကျက်နက် ခွဲခြားသန့်စင်စက်ရုံ၏ လုပ်ငန်းဆောင်ရွက်မှုနှင့် အလုပ်သမားတို့ ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် သက်သာချောင်ချိရေး ဆောင်ရွက်မှု(စီမံချက်)

၃၅။ **စက်ကိရိယာအန္တရာယ် ကင်းရှင်းရေး**

- အန္တရာယ်ရှိသည့် စက်ကိရိယာများအား ဖုံးအုပ်ကာရံထားရန်။
- စက်ကိရိယာများတွင် ဘေးကင်းရေးကိရိယာ (Safety Device)များတပ်ဆင် အသုံးပြုရန်။
- ဥပဒေစည်းမျဉ်း စည်းကမ်းအရ လည်ပတ်နေသည့်စက်အား သင့်တော်စွာ ကာရံထားရမည်ဖြစ်ပြီး မတော်တဆ ကိုင်တွယ်ထိတွေ့မိပါက အန္တရာယ်မကျရောက်စေရန် လည်ပတ်နေသည့်အစိတ်အပိုင်းကို သင့်တော်သည့် အကာအရံများ မတပ်ဆင်ဘဲ မည်သည့်အလုပ်သမားမဆို ၎င်းစက်များအနီး လုပ်ကိုင်ခြင်းမပြုရန်။
- စက်ပြင်ဆင်ခြင်း၊ စက်ဆီ၊ ချောဆီထည့်ခြင်းတို့ကို အကာအရံများဖြုတ်၍ ပြုလုပ်ရပါက လုပ်ငန်းပြီးသည်နှင့် ပြန်လည်တပ်ဆင်ရန်။
- စက်များ၌ ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လုပ်ငန်းစဉ် (Safe work Procedure)များ ရေးသားချိတ်ဆွဲထားရန်။

- အရေးပေါ် အခြေအနေတွင် စက်ကိုရပ်တန့်နိုင်မည့် အားဖြတ်တောက်မှုနစ် တပ်ဆင်ထားရန်၊
- ကိုယ်ခန္ဓာအကာအကွယ်ပေးရေးဝတ်စုံ (PPE)များ ဝတ်ဆင်လုပ်ကိုင်စေရန်၊
- စက်ကိရိယာ၏ အကာအရံသည် စက်အားကိုင်တွယ်မောင်းနှင်မည့်သူနှင့် သဟဇာတဖြစ်အောင် ဆောင်ရွက်ရန်၊
- သော့ခတ်၊ သတိပေးစာတမ်းချိတ်ဆွဲစနစ်(Lockout/ Tagout) သုံးစွဲဆောင်ရွက်ရန်၊

## ၃၆။ လျှပ်စစ်အန္တရာယ် ကင်းရှင်းရေး

- လျှပ်စစ်ပစ္စည်းများအား လျှပ်စစ်ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ တပ်ဆင်အသုံးပြုရန်၊
- လျှပ်စစ်ပစ္စည်းကိရိယာများ သုံးစွဲနေသောအလုပ်ခွင်ပတ်ဝန်းကျင်တွင် ရေစို၊ ရေဝပ်ခြင်းမရှိစေရေး ဆောင်ရွက်ရန်၊
- သယ်ယူပြောင်းရွှေ့နိုင်သော လျှပ်စစ်ပစ္စည်းများအား အသုံးမပြုမီ အန္တရာယ်ကင်းရှင်းမှု ရှိ/မရှိ ကြိုတင်စစ်ဆေးရန်၊
- လက်အိတ်၊ လုပ်ငန်းခွင်သုံး အန္တရာယ်ကင်းရှင်းရေးဖိနပ်များ ဝတ်ဆင်လုပ်ကိုင်ရန်၊
- ချို့ယွင်းနေသော ဝါယာကြိုးများ၊ ပလပ်ပေါက်များနှင့် ပလပ်များအား အသုံးမပြုရန်၊
- လျှပ်စစ်ခလုတ်များတွင် အညွှန်းစာသားများ (Labelled)ရေးမှတ်ထားရှိရန်၊
- လျှပ်စစ်အဖွင့်အပိတ်ခလုတ်များရှိရာ နေရာသို့ သွားလမ်းအား ရှင်းလင်းထားရန်၊
- လျှပ်စစ်ပစ္စည်းကိရိယာများအား သင့်တော်သည့် ပြုပြင်မွမ်းမံထိန်းသိမ်းမှုပြုရန်၊
- စက်ပစ္စည်းကိရိယာများအား ပြုပြင်ထိန်းသိမ်းခြင်းနှင့် သန့်ရှင်းရေးမပြုလုပ်မီ စက်ကို "အား" ဖြတ်တောက်၍ ဆောင်ရွက်ရန်နှင့် မတော်တဆ စက်မဖွင့်မိစေရေး စီမံဆောင်ရွက်ရန်၊
- လျှပ်စစ်ဓါတ်လိုက်ခံရသူအား ကယ်ဆယ်ရန် နည်းလမ်းများကို ကြိုတင်လေ့ကျင့် သင်ကြားထားရန်၊
- လျှပ်စစ်အန္တရာယ်ကင်းရှင်းရေး၊ ရှေးဦးသူနာပြုသင်ခန်းစာတွင် ရှေးဦးသူနာ မပြုမီ ထပ်မံထိခိုက်မှု မဖြစ်ပွားစေရေး ဆောင်ရွက်ရမည့်အချက်ကို ထည့်သွင်းပို့ချပေးရန်၊
- အမြင့်တက်၍ လုပ်ကိုင်ရာတွင် သင့်တော်သည့် အမြင့်တက်ကိရိယာနှင့် ခါးပတ်များဝတ်ဆင်လုပ်ကိုင်၍ Overhead Power lines များကိုဂရုစိုက် ရှောင်ရှားရန်၊

## ၃၇။ အလုပ်ခွင်၌ သယ်ယူပို့ဆောင်ရေးယာဉ်များအသုံးပြုခြင်း

- သယ်ယူပို့ဆောင်ရေး ယာဉ်များအသုံးပြုနေသော လုပ်ငန်းခွင်၌ တာဝန်မရှိသူများ ဝင်ရောက်ခွင့်မပြုရန်၊
- သတ်မှတ်အလုပ်ခွင်နေရာအတွင်းသို့ ဝင်ရောက်ရန် ဝင်ပေါက်များသီးခြား ထားရှိရန်၊

- ဝင်လမ်း၊ ထွက်လမ်းများအား ရှင်းလင်းစွာ ခွဲခြားသတ်မှတ်ထားပြီး ပစ္စည်းများ၊ အခြားအရာဝတ္ထုများဖြင့် ပိတ်ဆို့မှုမရှိစေရေး စီမံဆောင်ရွက်ထားရန်။
- အလုပ်ခွင်နေရာများ၌ ယာဉ်အန္တရာယ်သတိပေး ဆိုင်းဘုတ်များ၊ အန္တရာယ်ကင်းရှင်းရေး ဆိုင်းဘုတ်များ ထားရှိရန်။
- ယာဉ်များအား မျက်တရက် မမြင်မတွေ့နိုင်သောနေရာများတွင် သတိပေးအမှတ်အသားများ ထားရှိရန်နှင့် ထောင့်ချိုးကွေ့နေရာများတွင် မှန်ဘီလူးခုံးများ တပ်ဆင်ထားရန်။
- ယာဉ်ဝင်ထွက်သွားလာနေသည့် အလုပ်ခွင်နေရာအားလုံး၌ မျဉ်းများရေးဆွဲရန်နှင့် ကန့်သတ်မိုင်နှုန်းပြ ဆိုင်းဘုတ်များ တပ်ဆင်ရန်။
- အလုပ်ခွင်၌ ယာဉ်သွားလမ်းအားလုံး ကောင်းမွန်စေရန်နှင့် အလင်းရောင်လုံလောက်စွာ ရရှိအောင် ဆောင်ရွက်ရန်။
- အဆောက်အဦအတွင်းဘက်နှင့် အပြင်ဘက်အလင်းရောင် ရရှိမှုပမာဏသည် ယာဉ်မောင်းသူ၏ မျက်လုံးတွင် အနှောင့်အယှက်မဖြစ်စေရေး ဂရုပြုရန်။
- Forklifts ပေါ်တွင် ယာဉ်မောင်းသူမှအပ အခြားသူများလိုက်ပါစီးနင်းခြင်း မပြုရန်။
- ဘေးကင်းစွာ သယ်''မ''နိုင်သည့် ဝန်ချိန်ထက် ကျော်လွန်သောဝန်များကို သယ်မခြင်းမပြုရန်။
- သတ်မှတ်အရှိန်နှုန်းထက် ပို၍မမောင်းရန်။
- ယာဉ်ရပ်တန့်ထားချိန်တွင် သော့တန်းလန်းဖြုတ်ထားခဲ့ခြင်း မပြုရန်။
- Forklifts အားအသုံးမပြုပါက ၎င်းယာဉ်အား သတ်မှတ်ထားသည့်နေရာတွင်သာ ရပ်နားထားရန်။
- Forklifts အား မောင်းနှင်စဉ်အတွင်း လက်ကိုင်ဖုန်း သို့မဟုတ် အခြားဆက်သွယ်ရေးကိရိယာများ သုံးစွဲခြင်းမပြုရန်။
- ယာဉ်များအား သတ်မှတ်ထားသည့် အချိန်ကာလအလိုက် ပုံမှန်စစ်ဆေးရန်။

၃၀။ ဓာတုဗေဒပစ္စည်းများ အန္တရာယ်ကင်းရှင်းရေး

- ဓာတုဗေဒပစ္စည်းများကြောင့် ရေတို၊ ရေရှည် ကျန်းမာရေးထိခိုက်နိုင်သဖြင့် ဓာတုဗေဒပစ္စည်းများ အန္တရာယ်ကင်းရှင်းရေးလမ်းညွှန်ချက် (Chemical Safety Data Sheet )များကို အလုပ်သမားများ နားလည်အောင် လေ့ကျင့်သင်ကြားပေးရန်။
- Container ၊ ဗူး၊ ဖန်ခွက်၊ ပုလင်း အစရှိသည်တို့ပေါ်တွင် ၎င်းအတွင်းရှိ ပစ္စည်းအမည်အား ရေးသားဖော်ပြထားရန်၊ အန္တရာယ်ရှိသည့်ပစ္စည်းများဖြစ်ပါက သက်ဆိုင်ရာ ဘေးအန္တရာယ်အမှတ်အသား သင်္ကေတနှင့် ဘေးကင်းရေးလိုက်နာဆောင်ရွက်ရန် ညွှန်ကြားချက်များ တပ်ထားရန်။
- CSCS ၏ သတ်မှတ်သည့် ကိုယ်ခန္ဓာကာကွယ်ရေးဝတ်စုံပစ္စည်းများကို မှန်ကန်စွာ ရွေးချယ်ဝတ်ဆင် လုပ်ကိုင်ရန်။

- အန္တရာယ်ရှိသော ဓါတုဗေဒပစ္စည်းများကို သတ်မှတ်ထားသည့် သေတ္တာများ (Containers)(သို့) အိတ်များအတွင်းသို့ စနစ်တကျစွန့်ပစ်ရန်။
- အစာမစားမီ လက်များကို စင်ကြယ်စွာဆေးကြောရန်။
- ဓါတုဗေဒပစ္စည်းနှင့် ထိတွေ့မိသော အရေပြားနေရာအား (၁၀)မိနစ်ကျော် ရေဖြင့် ဆေးကြောပြီး ဆေးကုသမှုချက်ချင်းခံယူရန်။
- မျက်လုံးအတွင်းသို့ဝင်ပါက ရေကန်များ၊ လက်ဆေးကန်များ၊ eye wash fountain နှင့် emergency shower များထားရှိရန်။
- မည်သူမဆို ဓါတုဗေဒပစ္စည်းများ သောက်မိခြင်း (သို့) မြိုချမိပါလျှင် ပါးစပ်အားရေဖြင့် ဆေးကြော၍ ဆေးရုံသို့ ချက်ချင်းပို့ဆောင်ရန်။
- ဓါတုဗေဒပစ္စည်းများ ပေါက်ထွက်မှု၊ ယိုစိမ့်မှုများ ဖြစ်ပွားပါက တာဝန်ရှိသူထံ ချက်ချင်းသတင်းပို့ရန်။
- လုပ်ငန်းခွင်အတွင်း အမှုန်အမွှား၊ အခိုးအငွေ့များ၊ မီးလောင်ထွက်ပေါ်ရာ အရင်းအမြစ်မှ စုတ်ထုတ်ပယ်ရှားရန်နှင့် လေဝင်လေထွက် ကောင်းမွန်အောင် စီစဉ်ထားရန်။
- အန္တရာယ်များသော ဓာတုဗေဒပစ္စည်းများအစား အန္တရာယ်နည်းပါးသော ဓာတုဗေဒပစ္စည်းများနှင့် အစားထိုး သုံးစွဲရန်။

၃၉။ **ပစ္စည်းများကိုင်တွယ်ခြင်း၊ သယ်မခြင်း**

- ပစ္စည်းအား သယ်မခြင်းမပြုမီ ပစ္စည်း၏အမျိုးအစား၊ အလေးချိန်နှင့် ပတ်ဝန်းကျင် အခြေအနေကို အကဲဖြတ်လေ့လာရန်။
- ပစ္စည်းများသယ်မလျှင် ပထမဦးစွာ ဒူးခေါင်းကွေး၍ခါးကော့ရိုးအား ကိုယ်ခန္ဓာနှင့် နီးကပ်စွာ ထား၍ မြဲမြံစွာ ဆုပ်ကိုင်ပြီး ဖြေးညင်းစွာပင့်တင်ရန်။
- သယ်၊ ညာကွေ့ပါက ခါးလိမ်၍ကွေ့ခြင်းမပြုဘဲ ကိုယ်ခန္ဓာတစ်ခုလုံးလှည့်၍ ကွေ့ရန်။
- အလွန်အမင်း လေးလံသောပစ္စည်းများအား လူအားထက် စက်အားဖြင့် ဦးစားပေးသယ်မရန်။
- ကရိန်းဖြင့် ပစ္စည်းများသယ်မရာတွင် ကရိန်းကြိုးဆိုင်းကြိုးများအား ပုံမှန်စစ်ဆေးရန်။
- လေးလံသည့်ပစ္စည်းများ သယ်မရာတွင် သင့်တော်သည့် လက်အိတ်၊ ထိပ်မာဖိနပ်များ ဝတ်ဆင်လုပ်ကိုင်ရန်။
- အလွန်လေးလံသည့် ဝန်များအား လူအားဖြင့် သယ်မခြင်းမပြုရန်။
- တစ်ဦးတည်း သယ်"မ"၍ မဖြစ်နိုင်သော ပစ္စည်းများအား နှစ်ဦး/သုံးဦးစုပေါင်း သယ်မရန်။
- သယ်"မ"မည့်ပစ္စည်းပုံသဏ္ဌာန်ပေါ် မူတည်၍ သင့်တော်သည့်နည်းစနစ်ကို အသုံးပြုရန်နှင့် လိုအပ်ပါက သယ်မကိရိယာများကို အသုံးပြုရန်။
- အက်စစ်၊ အယ်ကာလီ ကဲ့သို့ အန္တရာယ်ရှိသည့်ပစ္စည်းများ သယ်"မ"ပါက လုံခြုံစွာ ထုံးအုပ်ထားရန်။
- သယ်ပစ္စက်များ၏ အများဆုံးသယ်မနိုင်သည့် အလေးချိန် (Safe Working Load )ရေးဆွဲထားရန်။

၄၁။ ကိုယ်ခန္ဓာကာကွယ်ရေးဝတ်စုံ

- လုပ်ငန်းခွင်တွင် အန္တရာယ်အမျိုးအစားပေါ်မူတည်၍ သင့်တော်ကောင်းမွန်သည့် ကိုယ်ခန္ဓာကာကွယ်ရေးဝတ်စုံများ ဝတ်ဆင်လုပ်ကိုင်ရန်။
- ဦးခေါင်းပိုင်း ကာကွယ်ရန် ဦးထုပ်မာ (Hard Hat )နှင့် ဆံပင်ရှည်သူများအနေဖြင့် ဆံပင်ကို ဦးထုပ် (သို့) အဝတ်ဖြင့် လုံခြုံစွာ လုပ်ကိုင်ရန်။
- မျက်စိကာကွယ်ရန် မျက်မှန်အကြည် (သို့)မျက်နှာအကာများ ဝတ်ဆင်လုပ်ကိုင်ရန်။
- ဆူညံသံကိုကာကွယ်ရန်၊ နားအဆို့ (သို့) နားအကာ (ear muff )ဝတ်ဆင်လုပ်ကိုင်ရန်။
- အသက်ရှူလမ်းကြောင်းအား ကာကွယ်ရန် သင့်တော်သည့် အသက်ရှူကိရိယာ (Respirator)နှင့် အောက်ဆီဂျင်နည်းနိုင်သည့် နေရာများတွင် အောက်ဆီဂျင်ပံ့ပိုးပေးသည့် ကိရိယာများ မဖြစ်မနေ သုံးစွဲရန်။
- လက်များကာကွယ်ရန် ထူထဲသည့်လက်အိတ်နှင့် ကောင်းစားတတ်သည့် အက်စစ်ကဲ့သို့ ပစ္စည်းများအတွက် ရာဘာ (သို့) ပလတ်စတစ်အိတ်များ ဝတ်ဆင်လုပ်ကိုင်ရန်။
- ခြေထောက်ကာကွယ်ရန် ထိပ်မာဖိနပ်၊ အပူခံဖိနပ်၊ ရာဘာလည်ရှည်ဖိနပ်များ ဝတ်ဆင်လုပ်ကိုင်ရန်။
- လျှပ်စစ်အန္တရာယ် ကင်းရှင်းရေးအတွက် သတ္တုမပါသည့်ဖိနပ်များ ဝတ်ဆင်လုပ်ကိုင်ရန်။
- အမြင့်တက်၍ လုပ်ကိုင်ရပါက အသက်ကယ်ခါးပတ် (Safety Belt)၊ ကိုယ်သိုင်းကြိုး (Safety Harness)များ ဝတ်ဆင်လုပ်ကိုင်ရန်။

၄၂။ **မီးလောင်ခြင်းနှင့် ပေါက်ကွဲခြင်း**

- စက်ရုံ အလုပ်ရုံများတွင် မီးလောင်လွယ်သော အရည်များအသုံးပြုခြင်း၊ သိုလှောင်ခြင်း၊ အပုံးကာမဲ့ မီးခွက်၊ မီးတောက်များရှိခြင်း၊ ဆေးလိပ်သောက်ခြင်း၊ ဆွေးမြေ့ပေါက်ပြဲနေသော လျှပ်စစ်ဝါယာ၊ မီးဖြင့် သတ္တုဖြတ်တောက်ခြင်း တို့ကြောင့်မီးပွ မီးတောက်အပူများ ထွက်ပေါ်ပြီး မီးလောင်မှုအန္တရာယ်ဖြစ်ပွားနိုင်သဖြင့် ကြိုတင်ကာကွယ်ဆောင်ရွက်ထားရန်။
- လျှပ်စစ်ဝါယာကြိုးများနှင့် မော်တာများ ချော်လွှင်းမှုသက်တမ်းကြာ စက်ကိရိယာ အစိတ်အပိုင်းအချင်းချင်းပွတ်တိုက်၍ မီးလောင်ကျွမ်းနိုင်သဖြင့် အဆိုပါပစ္စည်းများနှင့် စက်ကိရိယာများအား စနစ်တကျထားသိုရန်။
- မီးလောင်လွယ်သည့်ပစ္စည်းများ (Combustible materisl)ကို သတ်မှတ်နေရာတွင် စနစ်တကျထားသိုရန်။
- မည်သည့် အခြေအနေတွင် မဆိုအသုံးပြုနိုင်မည့် အရေးပေါ်ထွက်ပေါက်တံခါးများအား ရှင်းလင်းစွာ ညွှန်ပြသတ်မှတ်ထားရန်။

- အရေးပေါ်ထွက်ပေါက်သို့ သွားရာလမ်းများအား ရှင်းလင်းထားရန်နှင့် အရေးပေါ်ထွက်ပေါက်တံခါးများအား သော့ခတ်မထားရန်၊
- သဲပုံး၊ ရေပုံးများမှအစ မီးသတ်ပစ္စည်းကိရိယာများနှင့် အလိုအလျောက်ရေဖြန်း မီးငြိမ်းသတ်နိုင်သော စနစ်များ တပ်ဆင်အသုံးပြုရန်၊
- မီးလောင်မှုအမျိုးအစားအလိုက် ခွဲခြားသတ်မှတ်ထားသော မီးသတ်ကိရိယာများကိုမှန်ကန်စွာ ရွေးချယ်အသုံးပြုရန်။
- စက်ရုံများတွင် မီးလှန့်အချက်ပေးစနစ်များဖြစ်သည့် ဖျော့စစ်ခေါင်းလောင်း (သို့) ဥဩစနစ် (သို့) သံချောင်းတပ်ဆင်ထားရန်။
- စက်ရုံးများတွင် မီးဘေးကာကွယ်ရေးအဖွဲ့များဖွဲ့စည်း၍ ကြိုတင်လေ့ကျင့်ရန်။
- မီးလောင် ပေါက်ကွဲတတ်သည့် အမှုန်အမွှား၊ အခိုးအငွေ့များ စုဝေးခြင်းမရှိစေရန် အရင်းအမြစ်မှ စုပ်ယုတ်ရှင်းလင်းထားရန်။

## ၄.၂။ သေသပ်မှုရှိခြင်း

- လုပ်ငန်းခွင်သန့်ရှင်းသပ်ရပ်စေရေးပစ္စည်းများ စနစ်တကျထားသိုရန်၊
- လုပ်ငန်းခွင်သုံးလိုအပ်သည့်ပစ္စည်းများနှင့် လက်သုံးပစ္စည်းများကို နေရာတကျထားရှိရန်၊
- မြေပြင်လက်ကျန်စာရင်းကတ်ပြား ချိတ်ဆွဲထားရန်၊

## ၄.၃။ လုပ်ငန်းခွင်ကျန်းမာရေး

- စက်ရုံအတွင်း ရေမဝပ်စေရန်နှင့် အမှိုက်များ စုပုံမနေစေရန် နေ့စဉ်သန့်ရှင်းရေး ပြုလုပ်ရန်။
- အမှိုက်များ၊ စွန့်ပစ်ပစ္စည်းများကို သတ်မှတ်နေရာများ၌ စနစ်တကျစွန့်ပစ်ရန်။
- အလုပ်ခန်းများတွင် အလင်းရောင် လုံလောက်စွာရရှိစေရေး စီမံဆောင်ရွက်ထားရန်၊
- သန့်ရှင်းစင်ကြယ်သောသောက်ရေနှင့် ဆေးကြောရန် ရေများအလုံလောက်ထားရှိရန်၊
- နားနေခန်းများ၊ ထမင်းစားဆောင်များကိုလည်း သန့်ရှင်းသပ်ရပ်စွာထားရှိရန်၊
- အိမ်သာနှင့် ကျင်ငယ်စွန့်ရန် နေရာများကို သန့်ရှင်းစင်ကြယ်စွာနှင့် လုံလောက်စွာထားရှိရန်။

## ၄.၄။ ရှေးဦးသူနာပြုစုခြင်း

- အရေးပေါ်ထိခိုက်ဒဏ်ရာရရှိပါက ကုသရန်လိုအပ်သော ဆေးပစ္စည်းကိရိယာများနှင့် သူနာပြုတတ်ကျွမ်းသူထားရှိရန်၊
- ရှေးဦးသူနာပြုသင်တန်းများသို့ စေလွှတ်လေ့ကျင့်သင်ကြားပေးရန်။

- ထိခိုက်အန္တရာယ်ရှိမှု ကြီးမားပြင်းထန်ပါက ဆေးရုံ ဆေးခန်းနှင့် ဆက်သွယ်ဆောင်ရွက်ရန်။
- အရေးပေါ်ကိစ္စများအသုံးပြုရန် မော်တော်ကားနှင့် ဆက်သွယ်ရေးကိရိယာ စီစဉ်ထားရှိရန်။
- ထိခိုက်အန္တရာယ်ရှိမှု အကျိုးခံစားခွင့်များရရှိရေး ဆက်လက်ဆောင်ရွက်ပေးရန်။

၄၅။ **လေ့ကျင့်ပညာပေးခြင်း**

- စက်ရုံပိုင်ရှင်၊ မန်နေဂျာနှင့် စီမံခန့်ခွဲသူများအတွက် လေ့ကျင့်ပညာပေး အစီအစဉ်များ ချမှတ်ဆောင်ရွက်ရန်။
- အလုပ်သမားသစ်များအား ကျွမ်းကျင်မှု သင်တန်းပေး၍ အလုပ်သမားဟောင်းများအား မွမ်းမံသင်တန်းပေးရန်။
- အသိပညာပေး ဆွေးနွေးပွဲများ ကျင်းပခြင်း၊ အန္တရာယ်သတိပေး ပိုစတာ၊ သင်္ကေတနှင့် စာတမ်းများ ချိတ်ဆွဲဆောင်ရွက်ရန်။
- စစ်ဆေးရေးဌာနများ၏ အကူအညီများရယူရန်။
- အလုပ်သမားများ စိတ်ပါဝင်စားမှု ပိုမိုတိုးတက်လာစေရန် ဘေးအန္တရာယ် ကင်းရှင်းရေးပြိုင်ပွဲများ ပြုလုပ်၍ အသန့်ရှင်းဆုံးလုပ်ငန်းခွင်ဆု၊ ဘေးအန္တရာယ် အကင်းဆုံးလုပ်ငန်းခွင်ဆုများ ချီးမြှင့်ရန်။

၄၆။ **အလုပ်ရှင်တာဝန်**

- လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ကျန်းမာရေးဆိုင်ရာ အစီအမံများချမှတ် ဆောင်ရွက်ရမည်။
- အလုပ်သမားများအား လိုအပ်သည့်ပညာပေးသင်တန်း တက်ရောက်နိုင်ရန် စီစဉ်ပေးရမည်။
- သိသင့်သိထိုက်သော သတင်းအချက်အလက်များကို ထုတ်ပြန်ပေးရမည်။
- သင့်တော်ကောင်းမွန်သည့် ဘေးကင်းရေးဆိုင်ရာ ကိရိယာများ ပံ့ပိုးပေးရမည်။
- အန္တရာယ် ကာကွယ်ရေးပစ္စည်းများနှင့် လုပ်ငန်းခွင်သုံးပစ္စည်းများ ထုတ်ပေးရမည်။
  လိုအပ်သောဆေးစစ်ခြင်း၊ ရှေးဦးသူနာပြုပစ္စည်း ထောက်ပံ့ပေးရမည်။
- အစိုးရက ထုတ်ပြန်ထားသည့် စည်းမျဉ်း၊ စည်းကမ်း၊ ဥပဒေများကို လိုက်နာရမည်။
- အသိပညာပေးဆွေးနွေးပွဲများကို ကျင်းပခြင်း၊
  သတိပေးပိုစတာနှင့် စာတမ်းများချိတ်ဆွဲခြင်းများကို ဆောင်ရွက်ရမည်။
- ပြင်ပစစ်ဆေးရေးဌာနများ၏ စစ်ဆေးကြီးကြပ်မှုလုပ်ငန်းများအပေါ် ပူးပေါင်းဆောင်ရွက်ရမည်။

၄၇။ အလုပ်သမားကောင်စီ

- စက်ကိရိယာများ ကိုင်တွယ် မောင်းနှင်ခြင်းနှင့် လုပ်ငန်းခွင်သုံးပစ္စည်းများနှင့် ပတ်သက်၍ အန္တရာယ်ကင်းရှင်းရေး အသိပညာ၊ ဗဟုသုတများ သိထားရမည်။
- လုပ်ငန်းခွင်ဘေးအန္တရာယ် ကင်းရှင်းရေး၊ ကျန်းမာရေးနှင့် ပတ်သက်၍ ထုတ်ပြန်ထားသည့် လက်ကမ်းစာစောင်များ၊ ပိုစတာများ၊ သင်္ကေတပါ ရှောင်ရန်/ဆောင်ရန် အချက်များအတိုင်းလိုက်နာဆောင်ရွက်ရမည်။
- လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးဆိုင်ရာ ပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်၊ စည်းကမ်းများကို လိုက်နာရမည်။
- လုပ်ငန်းခွင်စည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာရမည်။
- အလုပ်ခွင်၌ အန္တရာယ်ကျရောက်မည့်ဆဲဆဲ အခြေအနေရှိပါက ကိုယ်တိုင်ဖြစ်စေ၊ ကြီးကြပ်ရေးမှူးမှ တစ်ဆင့်အလုပ်ရှင် သို့မဟုတ် မိမိ အထက်တာဝန်ရှိသူကို သတင်းပို့ရမည်။
- အန္တရာယ်ကင်းသည့် လုပ်ငန်းခွင်ဖြစ်စေရန် အသိစိတ်ဖြင့် လိုက်နာဆောင်ရွက်ရမည်။

## နိဂုံးချုပ်

နိုင်ငံတော်သည် လူမှုစီးပွားရေးဘဝ အဆင့်မြင့်မားရေး၊ ဖွံ့ဖြိုးတိုးတက်စေရေး၊ စီးပွားရေး ပြုပြင်ပြောင်းလဲမှုများကို အစီစဉ်တကျ ဆောင်ရွက်လျက်ရှိရာ ကုန်ထုတ်စွမ်းအားစုမြှင့်မားရေး ကုန်ထုတ်လုပ်မှုတိုးတက်စေရေးအတွက် အနာဂတ်နိုင်ငံတော်စီးပွားရေးလုပ်ငန်းများတွင် လုပ်ကိုင်ဆောင်ရွက်မည့်လုပ်ငန်း၊ ပြည်သူများအနေဖြင့် လုပ်အားစွမ်းဆောင်မှုအလိုက်အကျိုးခံစားခွင့်ရရှိပြီး လုပ်ငန်းခွင်အတွင်း ဘေးအန္တရာယ်ကင်းရှင်းစွာနှင့် စိတ်ပျော်ရွှင်စွာ လုပ်ကိုင်ဆောင်ရွက်လျက် ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကြီးနှင့်အညီ သာယာဝပြောသော လူ့ဘောင်သစ်ကြီးထံသို့ ဦးတက်နိုင်ရန် ကြိုးပမ်းဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

# MYANMAR GOLDEN BONANZA CO., LTD.



## ခဲမဖြူ – အဖြိုက်နက် ခွဲခြားသန့်စင်စက်ရုံ (လှိုင်ကော်)

## အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက်စာချုပ်

ကယားပြည်နယ်၊ လွိုင်ကော်မြို့၊ Myanmar Golden Bonanza Co.,Ltd. ခဲမဖြူ-အဖြိုက်နက်

ခွဲခြားသန့်စင်စက်ရုံ၏ အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက်စာချုပ်

၁။ အလုပ်ခန့်ထားခြင်း

လောပိတလမ်း၊ လွိုင်ကော်မြို့၊ ကယားပြည်နယ်တွင် တည်ထောင်ထားသည့် ခဲမဖြူ-အဖြိုက်နက် ခွဲခြားသန့်စင် စက်ရုံ၏ စီမံခန့်ခွဲသူ အလုပ်ရှင်သည် အလုပ်သမား ဦး/ဒေါ်အား (နောက်ဆက်တွဲစာရင်း) အတိုင်းအဖြစ် ( ) ရက်နေ့ နံနက်ပိုင်း / ညနေပိုင်း မှစ၍ လစား၊ နေ့စား၊ ပုတ်ပြတ်၊ ကျပ် / ဒေါ်လာ ( ) ဖြင့် ခန့်အပ်ခြင်းကို အောက်ပါအတိုင်း နှစ်ဦး သဘောတူ လက်မှတ် ရေးထိုးကြပါသည်။

အလုပ်အကိုင်အမျိုးအစား

(က) အလုပ်အကိုင် အမျိုးအစား ------------------------------------

(ခ) ရာထူး/အဆင့် ------------------------------------

၃။ လုပ်ခလစာ

နေ့စား --------------------------------

ပုတ်ပြတ် --------------------------------

လစား --------------------------------

ထုတ်ပေးမည့်ရက် --------------------------------

အစမ်းခန့်ကာလ

(၁) အလုပ်လုပ်သူတိုင်းသည် (၃)လအစမ်းခန့်ကာလအဖြစ် ဆောင်ရွက်ရမည်။

(၂) အစမ်းခန့်ကာလ ပြည့်မြောက်၍ ကျေနပ်ဖွယ် ရှိလျှင် သတ်မှတ်ရာထူး၌ ဆက်လက် ခန့်ထားမည်။

(၃) လုပ်သက် (၃)လမပြည့်မီ အလုပ်ရပ်စဲခြင်းနှင့် ထုတ်ပယ်ခြင်းတို့ကို အလုပ်ရှင်ဘက်မှ (၁)လကြိုတင် နို့တစ်စာ ပေး၍ဖြစ်စေ (သို့မဟုတ်) တစ်လစာ အခကြေးငွေပေး၍ဖြစ်စေ ဆောင်ရွက်နိုင်သည်။

၅။ **စာချုပ်သက်တမ်း**

- အစမ်းခန့်ကာလ------------------------

- စာချုပ်ကာလ----------------နှစ်-----------------လ

သက်တမ်းတိုးကာလ-------------------နှစ်-------------------လ

အလုပ်ရှင်နှင့် အလုပ်သမားနှစ်ဘက် သဘောတူညီချက်အရ စာချုပ်သက်တမ်းတိုး နိုင်သည်။

၆။ **အလုပ်ချိန်**

သာမန်အလုပ်ချိန်ကို တစ်ရက်လျှင် (၈)နာရီဟု ဥပဒေအရ သတ်မှတ်ထားသည်။ အဆိုင်းစနစ်ဖြင့် ဆောင်ရွက်ပါက တစ်ရက်လျှင် ၂ဆိုင်း (သို့မဟုတ်) ၃ဆိုင်းဖြင့် ဆောင်ရွက်ရမည်။ ရက်သတ္တပတ် အလုပ်လုပ်ရက် (၆)ရက်ဟု သတ်မှတ်သည်။

၇။ **နားရက်/အလုပ်ပိတ်ရက်နှင့်ခွင့်**

အလုပ်ပိတ်ရက်နှင့် ခွင့်ရက်တို့သည် တည်ဆဲဥပဒေအရ သတ်မှတ်ချက်အတိုင်း ဖြစ်ရမည်။

(က) **နားရက်**

ရက်သတ္တတစ်ပတ်လျှင် နားရက် (၁)ရက် သတ်မှတ်၍ အလုပ်သမားအား လုပ်ခ/လစာဖြင့် နားရက်ပေးရမည်။

(ခ) **အလုပ်ပိတ်ရက်**

အစိုးရရုံးပိတ်ရက် (အများအလုပ်ပိတ်ရက်)နှင့် ကမ္ဘာလုံး အလုပ်သမားရေးရာဆိုင်ရာ ပိတ်ရက်တို့မှာ နိုင်ငံတော်မှ သတ်မှတ်ထားသည့်အတိုင်း ဖြစ်သည်။

(ဂ) **ခွင့်**

(၁) အရေးပေါ်ခွင့် (ရှောင်တခင်ခွင့်)

လုပ်ခဖြင့် တစ်နှစ်လျှင် (၆)ရက် ခံစားခွင့် ပေးရမည်။

(၂) လုပ်သက်ခွင့်

လုပ်သက် (၁၂)လ တစ်ဆက်တည်း ပြည့်ပြီး လစဉ်အနည်းဆုံး အလုပ်လုပ်ရက် (၂၀)ရက်ရှိပါက ပျမ်းမျှ လုပ်ခ/လစာဖြင့် (၁၀)ရက် ခံစားခွင့်ရှိသည်။

(၃) ဆေးလက်မှတ်ခွင့်

လုပ်ခဖြင့် တစ်နှစ်လျှင် (၃၀)ရက် ခံစားခွင့်ပေးရပါမည်။

(၄) မီးဖွားခွင့်

လူမှုဖူလုံရေး အက်ဥပဒေနှင့် အကျုံးဝင်သူဖြစ်ပါက လူမှုဖူလုံရေး အက်ဥပဒေနှင့်အညီ ခံစားခွင့် ရှိသည်။ လူမှုဖူလုံရေး အက်ဥပဒေနှင့် အကျုံးမဝင်သူဖြစ်ပါက မီးမဖွားမီ ရက်သတ္တပတ် (၆)ပတ်နှင့် မီးဖွားပြီး ရက်သတ္တပတ် (၈)ပတ် ကာလအပိုင်းအခြားအတွက် (လစာပြည့်ဖြင့်) ခံစားခွင့်ပြုရမည်။

<u>အချိန်ပိုလုပ်ကိုင်ခြင်း</u>

(က) အလုပ်ရှင်နှင့် အလုပ်သမားတို့ ညှိနှိုင်းလျက် တစ်ရက်လျှင် ------------------------နာရီဖြင့် ရက်သတ္တတစ်ပတ်လျှင် -----------------ရက် စုစုပေါင်း ---------------------နာရီကို ဥပဒေ ခွင့်ပြုချက်အရ လုပ်ကိုင်နိုင်သည်။

(ခ) အချိန်ပို လုပ်ခ/လစာမှာ သာမန်လုပ်ခ/လစာ၏ -------------------- အဆပေးရမည်။

(ဂ) နားရက်/အလုပ်ပိတ်ရက်တွင် အလုပ်ရှင်သည် (အလုပ်လိုအပ်ချက်အရ) အလုပ် ခိုင်းစေပါက သာမန်လုပ်ခ လစာ၏ ----------------- အဆ ပေးရမည်။

၈။ <u>အခကြေးငွေပေးခြင်း</u>

(၁) အလုပ်သမားများအား မိမိတို့၏ လုပ်ခ၊ လစာ၊ နေ့စားခန့်နှုန်းထားများကို ကြိုတင်သိရှိနိုင်စေရန် အသိပေး ဆောင်ရွက်ထားရှိရမည်။

(၂) လုပ်ခများကို ပြက္ခဒိန်လတစ်လကုန်ပြီးသည်နေ့တွင် ထုတ်ပေးမည်။
အဆိုပါ နေ့ရက်သည် ရက်သတ္တပတ်စဉ် အလုပ်ပိတ်ရက်နှင့်ဖြစ်စေ၊ အများ အလုပ်ပိတ်ရက် နှင့်ဖြစ်စေ တိုက်ဆိုင်နေပါက ထိုနေ့မတိုင်မီ (၁)ရက်တွင် ထုတ်ပေးမည်။

(၃) အလုပ်သမားများအား အခကြေးငွေပေးခြင်းနှင့် ပတ်သက်၍ ၁၉၃၆ ခုနှစ်၊ လုပ်ခပေးရေး အက်ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် အညီ ဆောင်ရွက်ပါမည်။

၁၀။ **အလုပ်ချိန်အတွင်း အစားအသောက် အစီအစဉ်**

အလုပ်ရှင်သည် (နံနက်စာစောစော/နေ့လည်စာ/ညနေစာ/အချိန်ပိုမဆင်းမီ အဆာပြေ/မုန့်ဘိုး) စီစဉ်ပေးမည်။

၁၁။ **နေရာထိုင်ခင်း**

(က) အလုပ်ရှင်မှ စီစဉ်ပေးမည်။

(ခ) အလုပ်သမားက မိမိအစီအစဉ်ဖြင့် နေထိုင်ရမည်။

၁၂။ **ဆေးဝါးကုသခြင်း**

(က) အလုပ်ရှင်သည် အောက်ပါရွေးချယ်မှုအတိုင်း ဆေးဝါးကုသပေးမည်-

(၁) အလုပ်ခွင်ထိခိုက်ဒဏ်ရာရမှု။

(၂) အလုပ်ခွင်ရောဂါရရှိမှု။

(၃) သာမန်ဖျားနာမှု။

(၄) လူမှုဖူလုံရေးအက်ဥပဒေနှင့် အကျုံးဝင်သဖြင့် ဆေးဝါးကုသပေးခြင်း။

**အလုပ်ခွင်သို့ ကြို၊ ပို့ ယာဉ် စီစဉ်ပေးခြင်းနှင့် ခရီးသွားလာခြင်း။**

(က) အလုပ်ခွင်သို့ ကြို၊ ပို့ယာဉ် စီစဉ်ပေးခြင်း

(၁) မိမိအစီအစဉ်

(၂) အလုပ်ရှင်မှစီစဉ်ပေးမည်

(၃) ကြို၊ပို့ယာဉ် စရိတ်--------------------------------- မှပေးမည်။

(ခ) ခရီးသွားလာခြင်း

(၁) နိုင်ငံခြား ခရီးစရိတ် (အလုပ်ရှင်မှ/မိမိအစီအစဉ်ဖြင့်) ကျခံရမည်။

(၂) အလုပ်ဝင်/အလုပ်ထွက် ခရီးစရိတ်(အလုပ်ရှင်မှ/မိမိအစီအစဉ်)ဖြင့် ကျခံရမည်။

၁၄။ <u>အလုပ်သမားများ လိုက်နာရမည့် စည်းမျဉ်းစည်းကမ်းများ</u>

(က) စက်ရုံ၊ အလုပ်ရုံ၊ အလုပ်ဌာန၊ ကုမ္ပဏီများ၏ လုပ်ငန်းသဘာဝ၊ လုပ်ငန်းအမျိုး အစားအလိုက် အလုပ်သမားများ လိုက်နာရမည့် စည်းမျဉ်း စည်းကမ်းများကို အလုပ်ရှင်က အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန၏ ညှိနှိုင်းမှုဖြင့် လိုအပ်သလို ထုတ်ပြန်ရမည်။

(ခ) ပြည်ပမှ မြန်မာနိုင်ငံသို့ လာရောက်လုပ်ကိုင်သည့် နိုင်ငံခြားသား အလုပ်လုပ်ကိုင်သူနှင့် ၎င်းတို့၏ မိသားစုများသည် မြန်မာနိုင်ငံ၏ ဥပဒေကို လေးစားလိုက်နာရမည်၊ မြန်မာနိုင်ငံ၏ ပြည်တွင်းရေးကို ဝင်ရောက် စွက်ဖက်ခြင်း မပြုရ။

(ဂ) လုပ်ငန်းတွင် ဆက်လက် တာဝန် ထမ်းဆောင်ခြင်း မရှိတော့ပါက အလုပ်ရှင်က စီစဉ် ပေးထားသည့် နေရာမှ (၇) ရက်အတွင်း ဖယ်ရှား ပေးရမည်။

၁၅။ <u>တာဝန်ရှိမှုများ</u>

(က) အလုပ်ရှင်နှင့် အလုပ်သမားကြား အငြင်းပွားမှု ဖြစ်ပွားပါက ၂၀၁၂ခုနှစ်၊ အလုပ်သမားရေးရာ အငြင်းပွားမှု ဖြေရှင်းရေး ဥပဒေအရ ဖြေရှင်းဆောင်ရွက်ရမည်။

(ခ) <u>အလုပ်ရှင်၏ တာဝန်ဝတ္တရားများ</u>

(၁) အလုပ်ရှင်က စာချုပ် ဖောက်ဖျက်ခြင်း (သို့မဟုတ်) တာဝန်ရှိမှုကို ပျက်ကွက်ခြင်း ဖြစ်ပါက အလုပ်သမားအား နစ်နာကြေး ပေးရမည်။

(၂) အလုပ်သမားတွင် ပြစ်မှုတစ်စုံတစ်ရာ မရှိဘဲ အလုပ်ထုတ်ပစ်ပါက နစ်နာကြေး ပေးရမည်။

(၃) လုပ်ငန်းခွင်တွင် ထိခိုက်ဒဏ်ရာရရှိ၍ ကိုယ်အင်္ဂါ အစိတ်အပိုင်း ချို့ယွင်းဆုံးရှုံးမှု/ သေဆုံးမှုများ အတွက် ထိုက်သင့်သော လျော်ကြေးပေးရမည်။

(၄) လုပ်ခလစာများကို ပြက္ခဒိန်တစ်လ ကုန်ဆုံးပြီးသည့်နေ့မှစ၍ နောက်လဆန်း (၅)ရက်နေ့ထက် နောက်မကျစေဘဲ ထုတ်ပေးရမည်။ အဆိုပါ နေ့ရက်သည်

ရက်သတ္တ ပတ်စဉ် အလုပ်ပိတ်ရက် (သို့မဟုတ်) အများပြည်သူ အလုပ်ပိတ်ရက် နှင့် တိုက်ဆိုင် နေလျှင် ထိုနေ့ မတိုင်မီ ထုတ်ပေး ရမည်။ လုပ်ခ လစာ တိုးပေးခြင်းအား လုပ်ငန်း အကျိုး အမြတ် ရရှိခြင်းအပေါ် အခြေခံ၍ အလုပ်ရှင်နှင့် အလုပ်သမားတို့ ညှိနှိုင်း ဆောင်ရွက် ပေးရမည်။

(ဂ) အလုပ်သမား၏ တာဝန်ဝတ္တရားများ

(၁) အလုပ်သမားသည် စာချုပ်တာဝန်ရှိမှုနှင့် စည်းမျဉ်းစည်းကမ်းများကို ဖောက်ဖျက်ပါက အလုပ်မှ ထုတ်ပယ်ခြင်း ခံရမည်။

(၂) အလုပ်သမား၏ ဖျက်ဆီးမှုကြောင့် ပျက်စီးခြင်းများရှိပါက ပစ္စည်း၏ တန်ဖိုးတန်ဘိုး ပေးလျော် ရမည့်အပြင် အလုပ်မှ ထုတ်ပယ်ခြင်းခံရမည်။

(၃) အလုပ်သမားကြောင့် မတော်တဆ ပျက်စီးမှုများတွင် ပေါ့ဆမှု (သို့မဟုတ်) တာဝန်မကျေပွန်မှု ရှိပါက ပစ္စည်းတန်ဖိုးတန်ကြေး ပေးလျော်ခြင်းအပြင် အလုပ်မှ ထုတ်ပယ်ခြင်း ခံရမည်။

၁၆။ မတော်တဆ ထိခိုက်ဒဏ်ရာရရှိမှု၊ သေဆုံးမှုလျော်ကြေး

အလုပ်တာဝန် ထမ်းဆောင် နေချိန်အတွင်း အလုပ်ကို အကြောင်းပြု၍ မတော်တဆ ထိခိုက်ဒဏ်ရာ ရရှိပြီး၊ မသန်စွမ်းမှု၊ သေဆုံးမှု ကိစ္စများတွင် လူမှုဖူလုံရေး အကျုံးဝင်သူများအတွက် ၂၀၁၂ခုနှစ် လူမှုဖူလုံရေး ဥပဒေအရလည်းကောင်း၊ ကျန်လူမှုဖူလုံရေး အကျုံးမဝင်သူများအတွက် အလုပ်သမား လျော်ကြေးအက်ဥပဒေပါ ပြဋ္ဌာန်းချက်များ အတိုင်း ခံစားခွင့်ပြုသည်။

၁၇။ လူမှုဖူလုံရေး

၂၀၁၂ခုနှစ်လူမှုဖူလုံရေး အက်ဥပဒေနှင့်အညီ အကျိုးခံစားခွင့် ပြုပါမည်။ အလုပ်သမားများ အတွက် လူမှုဖူလုံရေး ထည့်ဝင်ကြေး အချိုးကျငွေကို အလုပ်ရှင်က တာဝန်ယူ ဖြတ်တောက်၍ လူမှုဖူလုံရေးရုံးသို့ ပေးသွင်း ရပါမည်။ အလုပ်သမားများသည် နာမကျန်း (သို့မဟုတ်) ထိခိုက် ဒဏ်ရာ ရရှိပါက လူမှုဖူလုံရေး ဆေးခန်းတွင် ဆေးကုသမှု ခံယူခွင့်ရှိသည်။ ဆေးခွင့်ခံစားရသော အလုပ်သမားသည် မန်နေဂျာသို့ အကြောင်းကြားရမည် ဆေးကုသမှု အကျိုးခံစားခွင့်မှာ လူမှုဖူလုံရေး

ဥပဒေပါ အပိုဒ်စဉ်အတိုင်းဖြစ်သည်၊ အခြားပြင်ပ ဆရာဝန်မှ ထုတ်ပေးသော ဆေးလက်မှတ်ကို အသိအမှတ်ပြုရန်မှာ စီမံခန့်ခွဲသူ မန်နေဂျာ၏ ဆုံးဖြတ်ချက်သာ အတည်ဖြစ်ပါသည်။

၁၈။ အပြစ်ပေးအရေးယူခြင်း

(၁) သာမန်ပြစ်မှုများ

(၁) စီမံခန့်ခွဲသူအား တမင်သက်သက် မလေးမစားပြုခြင်း၊ မထေမဲ့ခြင်းပြုခြင်း။

(၂) ရည်ရွယ်ချက်ဖြင့် တမင် သက်သက် လုပ်ငန်း ကျဆုံးစေခြင်း၊ စွမ်းဆောင်ရည် လျော့ချခြင်း။

(၃) မိမိ၏ လုပ်ငန်းတာဝန်များကို ထမ်းဆောင်ရာတွင် လုပ်ငန်းသုံး ပစ္စည်းများကို ကိုင်တွယ်သုံးစွဲရာ၌ ပေါ့ဆစွာ လုပ်ဆောင်ခြင်းကြောင့် ပျက်စီးဆုံးရှုံးမှုဖြစ်ပေါ်ခြင်း။

(၄) အလုပ်လွှတ်ချိန်မတိုင်မီ ထွက်ခွာခြင်း။

(၅) မိမိတာဝန်ကျရာ နေရာမှ အကြောင်းမဲ့ကင်းကွာခြင်း။

(၆) အလုပ်ချိန်အတွင်းအိပ်ခြင်း။

အလုပ်သမားတစ်ဦးသည် အောက်ဖော်ပြပါ ပြစ်မှုတစ်ခုခုကို ကျူးလွန်ကြောင်း ထင်ရှားလျှင် ပထမ အကြိမ်နှုတ်ဖြင့် သတိပေးခြင်း၊ ဒုတိယအကြိမ်စာဖြင့် သတိပေးခြင်း၊ တတိယအကြိမ်စာဖြင့် ဝန်ခံကတိလက်မှတ် ရေးထိုးစေလျှက် ပြင်ထန်စွာသတိပေးပြီးနောက်ထပ်မံကျူးလွန်ပါက အလုပ်မှရပ်စဲသည့် အထိပြစ်ပေးနိုင်သည်။

(က) မိမိပိုင်အဖိုးတန်ပစ္စည်းအား ယူဆောင်လာခြင်းမပြုရ။

(ခ) မိမိ၏ စားစရာပစ္စည်းများအား သတ်မှတ်နေရာတွင် မထားရှိခြင်း။

(ဂ) လုပ်ငန်းခွင် ဝန်ရောက်လျှင် အလုပ်တာဝန် စကားများမှလွဲ၍ သူတစ်ပါး အနှောက်အယှက် ဖြစ်စေရန် ကျယ်လောင်စွာ ပြောဆိုခြင်း၊ ရယ်မော နောက်ပြောင်ခြင်း မပြုရ။

(ဃ) အလုပ်သမားအချင်းချင်းအနိုင်မကျင့်ရ၊ သူတစ်ပါးထိခိုက်စေသော စကားကိုမဆိုရ၊ အုပ်စုမဖွဲ့ရ။

( င ) မိမိအလုပ်ရှင်/စီမံခန့်ခွဲသူ (သို့မဟုတ်) လုပ်ငန်း ခေါင်းဆောင်၏ တရားမျှတစွာ တာဝန်ပေးမှုကို ကျေပွန်စွာ ဆောင်ရွက်မှုမရှိခြင်း၊ ဝေဖန်ခြင်း၊ စောဒကတက်ခြင်းကို လုံးဝရှောင်ကြဉ်ရမည်။

( စ ) အလုပ်ချိန်အတွင်း ခွင့်ပြုချက်မရရှိဘဲ ဧည့်သည်နှင့် လက်ခံတွေ့ဆုံခြင်း မပြုရပါ။

## (၂) ကြီးလေးသောပြစ်မှုများ

အလုပ်သမားသည် အောက်ပါ ပြစ်မှုတစ်ခုခုကို ကျူးလွန်ကြောင်း ထင်ရှားလျှင် အလုပ်မှ ရပ်စဲသည့် အထိ အပြစ်ပေးနိုင်သည်။

(က) ခိုးမှုကျူးလွန်ခြင်း၊ အလွဲသုံးစားပြုလုပ်ခြင်း။

( ခ ) လုပ်ငန်းပိုင်ပစ္စည်းတစ်ခုခုကို တမင်သက်သက်ပျက်စီးစေခြင်း၊ ဆုံးရှုံးစေခြင်း။

( ဂ ) ခွင့်ပြုချက်မရှိဘဲ လုပ်ငန်းသို့လက်နက် (သို့မဟုတ်) ပေါက်ကွဲစေတတ်သော၊ ယိုစီး လောင်လွယ်သော ပစ္စည်းယူဆောင်လာခြင်း။

(ဃ) အလုပ်ခွင်တွင် တစ်စုံတစ်ဦးအား အပြင်အထန် နာကျင်စေရန် ကိုယ်ထိလက်ရောက် ကျူးလွန်ခြင်း။

( င ) အကျင့်စာရိတ္တပျက်ပြားမှုနှင့် စပ်လျဉ်းသည့် ရာဇဝတ်မှု ကျူးလွန်ခြင်း။

( စ ) လာဘ်ပေးလာဘ်ယူ ပြုလုပ်ခြင်း။

(ဆ) အလုပ်ခွင်အတွင်း တားမြစ်ထားသော နေရာသို့ခွင့်ပြုချက် မရှိဘဲသွားလာခြင်း။

( ဇ ) လုပ်ငန်း၏ ပေါက်ကွဲ မီးလောင်နိုင်သည့် နေရာ၌ ထုတ်ပြန် ထားသော အမိန့် စည်းကမ်း များကို ဖေါက်ဖျက်ခြင်း။

( ဈ) အလုပ်ခွင်အတွင်း ရုန်းရင်းဆန်ခတ်ဖြစ်စေခြင်း။

(ည) အလုပ်ခွင်အတွင်း အလုပ်ချိန်၌ မှူးယစ်သောက်စားရမ်းကားခြင်း။

( ဋ ) အလုပ်ခွင်အတွင်း၌ လောင်းကစားမှု ကျူးလွန်ခြင်း။

( ဌ ) အလုပ်ရှင်/စီမံခန့်ခွဲသူ၏ ခွင့်ပြုချက် တစ်စုံတစ်ရာမရှိဘဲ ခွင့်မဲ့တစ်ဆက်တည်း (၅) ရက်ပျက်ကွက်ခြင်း။

( ဍ ) လုပ်ငန်းခွင် အေးချမ်း သာယာရေးကို ထိခိုက် ပျက်ပြားစေမည့် အပြုအမူများ၊ အပြောအဆို များဖြင့် စည်းဝေးခြင်း၊ လှုံ့ဆော်ခြင်း၊ စည်းရုံးဆောင်ရွက်ခြင်း။

၁၉။ **စာချုပ်ရပ်စဲခြင်း**

အောက်ပါအချက်များကြောင့် သဘောတူစာချုပ် ရပ်စဲနိုင်သည်-

(က) အလုပ်ရှင်

(၁) အလုပ်သမားအား ငှားရမ်းသည့်ကာလ ကုန်ဆုံးခြင်း။

(၂) စက်ရုံဖျက်သိမ်းခြင်း။

(၃) မမျှော်မှန်းနိုင်သော ဖြစ်ရပ်ကြောင့် လုပ်ငန်းရပ်စဲသွားခြင်း။

(ခ) အလုပ်သမား

(၁) စည်းမျဉ်းစည်းကမ်းလိုက်နာမှုမရှိခြင်း။

(၂) အလုပ်သမားသေဆုံးခြင်း။

(၃) အလုပ်သမားပြစ်မှုကျူးလွန်၍ ထောင်ချအပြစ်ပေးခံရခြင်း။

၂၀။ **အလုပ်ခန့်ထားမှု သဘောတူစာချုပ်အား အလုပ်ရှင်အလုပ်သမား နှစ်ဦးသဘောတူ ဖျက်သိမ်းခြင်း**

အလုပ်ရှင်ဘက်မှ သော်လည်းကောင်း၊ အလုပ်သမားဘက်မှ သော်လည်းကောင်း၊ အလုပ်ခန့်ထားမှု ဆိုင်ရာ သဘောတူစာချုပ်ကို အကြောင်း အမျိုးမျိုးကြောင့် ဆက်လက်အကောင်အထည် ဖော်နိုင်ခြင်းမရှိခဲ့ပါက အကောင်အထည် မဖော်နိုင်သည့်ဘက်မှ စာဖြင့်ရေးသား၍ (၁)လကြိုတင် အသိပေးညှိနှိုင်းရမည်။

၂၁။ **အခြားကိစ္စရပ်များ**

သဘာဝဘေးအန္တရာယ်နှင့် မမျှော်လင့်သော အခြားအန္တရာယ်များ ကျရောက်လာပါက အလုပ်ရှင်သည် အလုပ်သမားများအတွက် လိုအပ်သော အစီအမံများကို ဆောင်ရွက်ပေးရမည်။

၂၂။ **စာချုပ်စည်းကမ်းများကို သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း**

အလုပ်ရှင်သည် စည်းကမ်းများ၏ မည်သည့် အစိတ်အပိုင်း များကိုမဆို သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ထပ်မံဖြည့် စွက်ခြင်းများ ပြုလုပ်လိုပါက အလုပ်သမားများနှင့် ညှိနှိုင်းဆွေးနွေး၍ သဘောတူညီချက်ရယူပြီး အလုပ်သမား တစ်ဦးချင်းစီ လက်မှတ်ရေးထိုးစေလျက် အလုပ်သမားညွှန်ကြားရေးဦးစီဌာန၏ ညှိနှိုင်းမှုဖြင့် ဆောင်ရွက်ရမည်။

၂၃။ အလုပ်ရှင်၏တာဝန်

(၁) သတ်မှတ်အလုပ်ချိန်

(က) အလုပ်လုပ်သူသည် တစ်ရက်လျှင်သတ်မှတ်အလုပ်ချိန် (၈) နာရီ အလုပ်လုပ်ရမည်။

(ခ) အလုပ်လုပ်သူသည် ရက်သတ္တပတ်လျှင် သတ်မှတ်အလုပ်ချိန် (၄၄) နာရီ အလုပ်လုပ်ရမည်။

(ဂ) တစ်ရက်လျှင် သတ်မှတ် အလုပ်ချိန် (၈) နာရီ ထက်ပိုသည် (သို့မဟုတ်) ရက်သတ္တပတ်လျှင် သတ်မှတ်အလုပ်ချိန် (၄၄) နာရီ ထက်ပိုသည့် နာရီအား အလုပ်ရုံနှင့် အလုပ်သမား ဥပဒေစစ်ဆေးရေး ဦးစီးဌာနသို့ အချိန်ပိုလုပ်ကိုင်ခွင့် ကြိုတင်တောင်းခံပြီး အချိန်ပို လုပ်ခအဖြစ် အလုပ်ရှင်မှ တည်ဆဲ ဥပဒေနှင့်အညီ ထုတ်ပေးရမည်။

(ဃ) ယေဘူယျအားဖြင့် အလုပ်သမားများအားနေ့စဉ် အောက်ဖော်ပြပါ ကာလအပိုင်းအခြားများတွင် အလုပ်လုပ်စေမည်ဖြစ်ပါကြောင်း။ အကယ်၍ လုပ်ငန်းလိုအပ်ချက်အရ အလုပ်ချိန်ကို ပြောင်းလဲမည် ဆိုပါက အလုပ်ရုံနှင့် အလုပ်သမား ဥပဒေစစ်ဆေးရေး ဦးစီးဌာနသို့ ကြိုတင်အသိပေးရမည်။

တနင်္လာနေ့ မှ သောကြာနေ့ အထိ

| | | |
|---|---|---|
| အလုပ်စသည့်အချိန် | | (၈ း ၀၀ နာရီ) |
| အားလပ်ချိန်/ ထမင်းစားချိန် | | (၁၂ း ၀၀) နာရီမှ (၁၃ း၀၀) နာရီအထိ |
| အလုပ်ပြီးသည့်အချိန် | - | (၁၆ း ၀၀) နာရီမှ (၁၇ း၀၀) နာရီအထိ |
| စနေနေ့အလုပ်လုပ်ချိန် | - | (၇ း ၀၀) နာရီမှ (၁၁ း၀၀) နာရီအထိ |

ပုဒ်မ (၆၀) အရ ရက်သတ္တပတ်စဉ် အလုပ်ပိတ်ရက်ကို တနင်္ဂနွေနေ့ သတ်မှတ်မည်။

(၂) အများပြည်သူအလုပ်ပိတ်ရက်

အများပြည်သူအလုပ်ပိတ်ရက်များကို အောက်ပါစည်းကမ်းချက်များအတိုင်း ခံစားခွင့်ပြုမည်။

(က) အများပြည်သူ အလုပ်ပိတ်ရက် များအတွင်း အခကြေးငွေ (သို့မဟုတ်) လစာငွေ အပြည့်ခံစားစေရမည်။

(ခ) အများပြည်သူ အလုပ်ပိတ်ရက် တစ်ရက်သည် ရက်သတ္တပတ်စဉ် အလုပ်ပိတ်ရက်နှင့် တိုက်ဆိုင်နေလျှင် တစ်ရက်တည်းသာ ခံစားစေရမည်။ ထိုနေ့ကို အများပြည်သူ အလုပ်ပိတ်ရက် (Public Holiday) အဖြစ် သတ်မှတ်မည်။

၂၄။ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း

အခြေအနေ ပြောင်းလဲခြင်းကြောင့် လိုအပ်လျှင် အလုပ်ရှင်က အခါအားလျော်စွာ အတည်ဖြစ်လျက်ရှိသော စည်းကမ်းချက်များ၏ မည်သည့်အစိတ် အပိုင်းကိုမဆို အလုပ်သမားများနှင့် ညှိနှိုင်းဆွေးနွေး၍ သဘော တူညီချက် ရယူပြီး လုပ်သားတစ်ဦးချင်းအား လက်မှတ် ရေးထိုးစေလျက် စည်းကမ်းချက်များကို စွန့်လွှတ်ခြင်း၊ ထပ်မံဖြည့်စွက်ခြင်း ပြုနိုင်ရန် သက်ဆိုင်ရာအလုပ်သမား ညွှန်ကြားရေးဦးစီးဌာန (မြို့နယ်ရုံး)သို့ ...င်ပြရမည်။

အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူ စာချုပ် ပြင်ဆင် ဆောင်ရွက်မှုကို မြို့နယ်ညှိနှိုင်းဖျန်ဖြေရေး အဖွဲ့သို့ အသိပေးပြီး အဖွဲ့၏ ရှေ့မှောက်တွင် စာချုပ်အသစ် ပြန်လည် ချုပ်ဆိုရမည်။

၂၅။ မတော်တဆထိခိုက်မှုများမှ ကာကွယ်ခြင်း

(၁) မိမိ၏ ဘေးအန္တရာယ် ကင်းဝေးစေရေး၊ အတူတူ လုပ်သူများ၏ ဘေးအန္တရာယ် ကင်းဝေးစေရေး အတွက် အလုပ်လုပ်ရာတွင် အစွမ်းကုန်သတိထားဂရုစိုက် လုပ်ကိုင်ရန်။

(၂) မတော်တဆ ထိခိုက်မှုများကို ကာကွယ်တားဆီးရန် အခါအားလျော်စွာ ပြဋ္ဌာန်းထားသော လုပ်ငန်းခွင် ဘေးအန္တရာယ်ကာကွယ်ရေး စည်းကမ်းချက်များကို လိုက်နာခြင်း။

(၃) အလုပ်လုပ်သူအား ဘေးအန္တရာယ် ကာကွယ် တားဆီးရန် ပေးအပ်ထားသော အကာအကွယ် ပစ္စည်းများကို စနစ်တကျ သုံးစွဲရန်၊ ထိန်းသိမ်းရန်နှင့် ထိုပစ္စည်း ပျောက်ဆုံးပါက အလုပ်လုပ်သူမှ ကျသင့်တန်ဖိုးငွေ ပေးလျော်ရမည်။

၂၆။ အခွန်စည်းကြပ်ကောက်ခံခြင်း

(၁) အလုပ်လုပ်သူအား မြန်မာနိုင်ငံ အစိုးရနှင့် လက်အောက်ရှိ ဌာန/ အဖွဲ့အစည်း များမှ ကောက်ခံသော အခွန်နှင့် အခြားအခွန် စည်းကြပ်သည့် ငွေများကို ပေးရန်ရှိလျှင် သက်ဆိုင်ရာ အလုပ်လုပ်သူမှ ကျခံပေးသွင်းရမည်။

(၂) လူမှုဖူလုံရေး အာမခံအတွက် အလုပ်လုပ်သူမှ ထည့်ဝင်ရမည့် ထည့်ဝင်ကြေးကို အလုပ်လုပ်သူ ကျခံရမည်။ ထိုထည့်ဝင်ကြေးအတွက် အလုပ်ရှင်က အလုပ်သမား၏ လုပ်ခလစာမှ ဥပဒေနှင့်အညီ ဖြတ်တောက် ပေးသွင်းခွင့်ရှိသည်။

၂၇။ <u>အထွေထွေ</u>

(၁) အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူ စာချုပ်တစ်စောင်ကို စီမံခန့်ခွဲသူ/ အလုပ်ရှင်က သက်ဆိုင်ရာ အလုပ် သမားညွှန်ကြားရေး ဦးစီးဌာန (ခရိုင်/မြို့နယ်ရုံး) သို့ပေးပို့ မှတ်ပုံတင် ထားရမည်။

(၂) စီမံခန့်ခွဲသူ/ အလုပ်ရှင်သည် အလုပ်မှ နုတ်ထွက်သွားသူ (သို့မဟုတ်) ထုတ်လိုက်သူ အလုပ်သမားအား အလုပ်အကိုင်နှင့် စပ်လျဉ်း၍ ပုံစံ (က) သက်သေခံစာကို တစ်ပါတည်း ပေးလိုက်ရမည်။

| အလုပ်သမား၏ လက်မှတ် (သို့မဟုတ်)လက်ဝဲလက်မပုံစံ | | စီမံခန့်ခွဲသူ/အလုပ်ရှင်လက်မှတ် | |
| --- | --- | --- | --- |
| အမည် | ------------------------------------ | အမည် | ------------------------------------ |
| အဘအမည် | ------------------------------------ | ရာထူး | ------------------------------------ |
| မွေးသက္ကရာဇ် | ------------------------------------ | လုပ်ငန်း | ------------------------------------ |
| လူမျိုး/ဘာသာ | ----------------------------------- | ဌာန | ------------------------------------ |
| [illegible]အရည်အချင်း | ----------------------------------- | တည်နေရာ | ------------------------------------ |
| | ----------------------------------- | | |

စာချုပ်ချုပ်ဆိုသည့်ရက်စွဲ -----------------------------------

ကျွန်ုပ်တို့၏ ရှေ့မှောက်တွင်

| | | |
| --- | --- | --- |
| အမည် -------------------------- | အမည် --------------------------- | အမည် ---------------------- |
| အဖွဲ့ဝင် | ဥက္ကဋ္ဌ | အတွင်းရေးမှူး |
| -------------------------မြို့။ | ---------------------------မြို့။ | ------------------------မြို့။ |

မြို့နယ်ညှိနှိုင်းဖျန်ဖြေရေးအဖွဲ့

------------------------------------မြို့နယ်။

ပုံစံ (က)

အလုပ်အကိုင်နှင့် စပ်လျဉ်း၍ အလုပ်ရှင်ကပေးသည့် သက်သေခံစာ

၁။ လုပ်ငန်းအမည် ----------------------------------------------------------------

၂။ တည်နေရာ ----------------------------------------------------------------

၃။ အလုပ်သမားအမည် ----------------------------------------------------------------

၄။ အလုပ်သမား ကိုယ်ပိုင်အမှတ် ----------------------------------------------------------------

၅။ အဘအမည် ----------------------------------------------------------------

၆။ မွေးသက္ကရာဇ် ----------------------------------------------------------------

၇။ လူမျိုး/ဘာသာ ----------------------------------------------------------------

၈။ အမျိုးသားမှတ်ပုံတင်အမှတ် ----------------------------------------------------------------

၉။ ပညာအရည်အချင်း ----------------------------------------------------------------

၁၀။ ကျွမ်းကျင်သည့်အတတ်ပညာ ----------------------------------------------------------------

၁၁။ အလုပ်အကိုင် ----------------------------------------------------------------

၁၂။ စတင်ခန့်ထားသည့်နေ့ ----------------------------------------------------------------

၁၃။ နောက်ဆုံး ရရှိသည့်လစာ ----------------------------------------------------------------

၁၄။ အလုပ်ရပ်စဲ/ထွက်သည့်နေ့ ----------------------------------------------------------------

၁၅။ အလုပ်မှရပ်စဲ/ထွက်သည့်အကြောင်း ----------------------------------------------------------------

စီမံခန့်ခွဲသူ/အလုပ်ရှင်လက်မှတ်

--------------------------------------------ဌာန

--------------------------------------------လုပ်ငန်း

အလုပ်ခန့်ထားမှုဆိုင်ရာသဘောတူညီချက်စာချုပ်
အလုပ်သမားအများစုဖြင့် လက်မှတ်ရေးထိုးချုပ်ဆိုသည့် နောက်ဆက်တွဲအမည်စာရင်း

| စဉ် | အမည် | အင်အားစီအမှတ် | အလုပ်ခန့်ရက်စွဲ | အခြေခံလစာ (ကျပ်/ဒေါ်လာ) | အလုပ်ခန့်ထားသည့်ရာထူး | လက်မှတ် |
|---|---|---|---|---|---|---|
| ၁ | | | | | | |
| ၂ | | | | | | |
| ၃ | | | | | | |
| ၄ | | | | | | |
| ၅ | | | | | | |
| ၆ | | | | | | |
| ၇ | | | | | | |
| ၈ | | | | | | |
| ၉ | | | | | | |
| ၁၀ | | | | | | |
| ၁၁ | | | | | | |
| ၁၂ | | | | | | |
| ၁၃ | | | | | | |
| ၁၄ | | | | | | |
| ၁၅ | | | | | | |
| ၁၆ | | | | | | |
| ၁၇ | | | | | | |
| ၁၈ | | | | | | |
| ၁၉ | | | | | | |
| ၂၀ | | | | | | |
| ၂၁ | | | | | | |
| ၂၂ | | | | | | |
| ၂၃ | | | | | | |
| ၂၄ | | | | | | |
| ၂၅ | | | | | | |

အလုပ်ခန့်ထားမှုဆိုင်ရာသဘောတူညီချက်စာချုပ်

အလုပ်သမားအများစုဖြင့် လက်မှတ်ရေးထိုးချုပ်ဆိုသည့် နောက်ဆက်တွဲအမည်စာရင်း

| စဉ် | အမည် | အင်အာစီအမှတ် | အလုပ်ခန့်ရက်စွဲ | အခြေခံလစာ (ကျပ်/ဒေါ်လာ) | အလုပ်ခန့်ထားသည့်ရာထူး | လက်မှတ် |
|---|---|---|---|---|---|---|
| ၂၆ | | | | | | |
| ၂၇ | | | | | | |
| ၂၈ | | | | | | |
| ၂၉ | | | | | | |
| ၃၀ | | | | | | |
| ၃၁ | | | | | | |
| ၃၂ | | | | | | |
| [illegible] | | | | | | |
| ၃၄ | | | | | | |
| ၃၅ | | | | | | |
| ၃၆ | | | | | | |
| ၃၇ | | | | | | |
| ၃၈ | | | | | | |
| ၃၉ | | | | | | |
| ၄၀ | | | | | | |
| ၄၁ | | | | | | |
| ၄၂ | | | | | | |
| [illegible] | | | | | | |
| ၄၄ | | | | | | |
| ၄၅ | | | | | | |
| ၄၆ | | | | | | |
| ၄၇ | | | | | | |
| ၄၈ | | | | | | |
| ၄၉ | | | | | | |
| ၅၀ | | | | | | |

2013

# Initial Environmental Examination (IEE) for Tin and Tungsten Separator Plant (Loikaw)

Environment Myanmar Cooperative
(EMC)
2013



TABLE OF CONTENT

LIST OF TABLES

LIST OF FIGURES

LIST OF PLATES

## EXECUTIVE SUMMARY

The proposed Tin and Tungsten Separator Plant is located in Loikaw Township, Kayar State. The plant or factory is to separate Tin ore concentrate (cassiterite, $SnO_2$), Tungsten ore concentrate (wolframite, (Fe Mn) $WO_4$) and scheelite ($CaWO_4$) from the mixed ore concentrate, which are produced from Mawchi Mines. The proposed project will be operated at the existing separator plant, which was established in 1988-89 and operated by Mining Enterprise 2 in 1991-92. The separator plant is located around N 19° 38' 37.806" and E 97° 14' 22.289", and 2 miles south of Loikaw city. The climate in the area is a monsoon having cool dry, hot dry and wet seasons. The rainfall in the area ranged from 939mm to 1828mm with temperature range of 3.5°C to 36°C. Surface water is dominated by flows of rain water in wet season. Previously, it was owned by the Mining Enterprise (2). The ore extracted from Mawchi Mine near Loikaw was crushed and the three minerals, tin, wolframite and Scheelite, were separated. The factory was operated from 1992 to 2011 by the Mining Enterprise (2). In 2013, The Myanmar Golden Bonanza Services Co. Ltd. won the tender and an agreement has been signed between the Mining Enterprise (2) and the Myanmar Golden Bonanza Services Co. Ltd.. The agreement for first phase of the lease is fifteen years period. This Initial Environmental Examination (IEE) has been prepared to address whether this project will have the effect within and beyond the Project area. Under the Production Sharing Contract, MGB is responsible for environmental and social management of the project, as well as completion of this IEE. The IEE has been prepared using the International Finance Corporation's (IFC) standards as a good practice guide to the achievement of sound environmental, social and health outcomes from the Project's implementation.

The document has been developed based on the project plan of MGB. The project in its broader context consists of:

- -The raw material (ore) will be obtained from Mawchi Mine;
- -A crusher which breaks the ore down to a size suitable for separation;
- -A separation method using Magnetic Disc is used for separation of magnetic mineral (Wolframite) from non-magnetic mineral s (Cassiterite and Scheelite);
- -A high tension separation method for conductor (Cassiterite and non-conductor (Scheelite) minerals is used;

- No chemical reagent is used in the separation process

The MGB will produce the separated minerals in a rate of less than 50 tonnes per day. Direct chemical contamination from the separation cannot occur in operation period, since no chemical reagent is used in separation process. Low grade ore waste will be kept in a separate storage so that the chemical contamination through the waste cannot occur in the area. A tailing or wastewater pond is used to keep the wastewater from a shaking table, which is used to separate some crushed ore that cannot be well separated by magnetic disc and high tension methods.

An impact assessment was undertaken to determine the potential significant impacts of the Project on the environment within and around the Project site. The assessment was based on the intensity, duration, extent and probability of the impact occurring to determine the unmitigated risk. The risks ranged from very low to high level in the calibration of the methodology. The following sources of the possible impact were classified:

**-Construction (Improvement and repairing of infrastructure)**
-Inappropriate release of general waste
-Wind blown dust from the exposed surface
- Movement of vehicles and machinery,
- Increased safety risk to road users;
- Increase in the spread of communicable disease;

**Operations**
-Waste water , mineral separation associated waste
-Dust concentration due to ore crushing;
-Movement of vehicles and machinery,
- Disturbance of noise receptors;
- Increased safety risk to road users;
- Increase in the spread of communicable disease (including HIV/AIDS);
-Influx of persons into the area (transport operators and service providers).

